(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

M.208
3/2

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၈၂၁)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁. ၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃ / န-၁၃၆၁ / ၂၀၁၆ (၉၁)

၁။ Ezcon Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ် (၄၃၅)တွင် Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောတင်ပြချက်တွင် ကုန်ကြမ်းဓါတုပစ္စည်းများအား ပြည်ပမှ ဝယ်ယူသုံးစွဲမည်ဟု ဖော်ပြထားပြီး ကုန်ကြမ်း၊ ကုန်ချောအချိုးအစား ညီညွတ်မှု ရှိပါသည်။

(စ) ထုတ်လုပ်မည့်ပစ္စည်းများအတွက် စက်နှင့်စက်ပစ္စည်းအချိုးအစား ညီညွတ်မှု ရှိပါသည်။

(ဆ) နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အား တင်ပြချက်တွင် Exhibit -7(a)တွင် ဖော်ပြချက်ရ နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အားခန့်ထားမှု ဆီလျော်မှု ရှိပါသည်။

(ဇ) ကုမ္ပဏီမှ ထုတ်လုပ်သော ထုတ်ကုန်ပစ္စည်းများသည် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများဖြစ်ရာ အရည်အသွေးသည် အရေးကြီးသောအချက်ဖြစ်၍ အလေးထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဈ) ဤဝန်ကြီးဌာနအနေဖြင့် ကြေးထည်၊ မြေထည်လုပ်ငန်းများနှင့် နီးနွယ်သောလုပ်ငန်းများသာ ဆောင်ရွက်နေခြင်းဖြစ်ရာ ကွန်ကရစ်ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကွန်ကရစ်ဖျော်စပ်ရာတွင် အသုံးပြုထုတ်လုပ်မည့် ဓါတုပစ္စည်းများ ထုတ်လုပ်ခြင်းအတွက် စိစစ်နိုင်ခြင်း မရှိပါ။

၃။ သို့ပါ၍ Ezcon Co.,Ltd. မှ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

# မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
# MYANMAR INDUSTRIES ASSOCIATION

NO.29, MIN YE KYAW SWAR STREET, LANMADAW TOWNSHIP, YANGON, MYANMAR

☎ : 95-1-214830~31 E.mail: industries.association.mm@gmail.com Fax: 95-1-214832


M-671
8.4.16

စာအမှတ်၊ ၀၀၁/စမ (စီမံ) ၂၀၁၆ (၁၃၂)

ရက်စွဲ ၊ ၂၀၁၆ခုနှစ် ၊ ဧပြီ လ ၇ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း၏ သဘောထားမှတ်ချက်ပေးပို့ခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၁၇-၃-၂၀၁၆ ရက်စွဲပါ စာအမှတ် ရက-၃ /န-၁၃၁၆ /၂၀၁၆ (၄၃၃-ခ)

အထက်ပါကိစ္စနှင့် ပတ်သက်၍ EZCON Company Limited ၏ မြေကွက်အမှတ်- ၄၃၅ မြေတိုင်းရပ်ကွက်အမှတ် (၂၃)၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး မြေဧရိယာ ၀.၁၆၅ (၆၆၇.၇၃ စတုရန်း မီတာ)ရှိမြေအား ငှားရမ်း၍ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း Chemical Industry Group ၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ ဓါတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့်

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ

(ခ) လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ

(ဂ) စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ

(ဃ) ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်တပ်ဆင်မှု အစီအမံများ

(င) အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများ တင်ပြမှသာလျှင် ကော်မရှင်မှ ခွင့်ပြုသင့်ပါသည်။

၂။ ဓါတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့် ကုန်ကြမ်းသယ်ယူခြင်းမှ ကုန်ချောထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးတွင် မြန်မာနိုင်ငံဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ ကာကွယ်ရေး ဥပဒေ ( Prevention of Hazard From Chemical and Related Substances Law) အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ ထုတ်လုပ်မှုဖြစ်စဉ်တစ်လျှောက်လုံးအား ထုတ်လုပ်သူမှ တာဝန်ယူဆောင်ရွက်ပေးရန် ဖြစ်ပါသည်။ မြန်မာနိုင်ငံတာဝန်သိ စောင့်ရှောက်မှုကောင်စီ (Myanmar Responsible Care Council) နှင့် ပူးပေါင်း၍ Responsible Care Activities များ ဆောင်ရွက်ရန် လိုအပ်ပါသည်။

၄။ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မှုအတွက် Environmental Impact Assessment (EIA) ကို စဉ်ဆက်မပြတ် အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါသည်။

MYANMAR INDUSTRIES ASSOCIATION

အထွေထွေအတွင်းရေးမှူး (ကစ)
ဒေါ်ရီရီမြင့် (CIGဗဟိုကော်မတီဝင်)

မိတ္တူကို
- ရုံးလက်ခံ

ကုမ္ပဏီအမည်　- Ezcon Co., Ltd.

လုပ်ငန်း　- Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၃-၁-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၁-၁-၂၀၁၆ | ၁၀-၂-၂၀၁၆ | |
| | ( ခ) သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန (ယခင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန) | ၂၁-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| | ( ဂ) စက်မှုဝန်ကြီးဌာန(ပထမအကြိမ်) | ၂၁-၁-၂၀၁၆ | ၁-၂-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများ အသင်း (ပထမအကြိမ်) | ၂၁-၁-၂၀၁၆ | ၂၉-၁-၂၀၁၆ | |
| | မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများ အသင်း (ဒုတိယအကြိမ်) | ၂၁-၁-၂၀၁၆ | ၇-၄-၂၀၁၆ | |
| | မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများ အသင်း (တတိယအကြိမ်) | | ၇-၄-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃/၂၀၁၆) သို့ တင်ပြခြင်း | ၁၈-၁-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာပေးပို့ခြင်း | ၁၉-၁-၂၀၁၆ | | |
| ၅ | **အဆိုပြုလွှာပြန်လည်ပေးပို့သည့်ရက်** | ၇-၄-၂၀၁၆ | | |
| ၆ | **အဆိုပြုလွှာပြန်လည်တင်ပြသည့်ရက်** | **၂၆-၄-၂၀၁၆** | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ တင်ပြခြင်း | **၃၀-၆-၂၀၁၆** | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၆၈ ရက်** | | | |

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ezcon Co., Ltd. မှ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Ezcon Co., Ltd.<br>Mr. Kim Seokkyun (Korean) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- KH T&L Co., Ltd. (Korea) ၉၉.၉၉၉ %<br>- Mr. Kim Seokkyun (Korean) ၀.၀၀၁ % |
| | လုပ်ငန်းအမျိုးအစား | - Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း)မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်ကြည်ကြည်တင် |
| | မြေအကျယ်အဝန်း | - ၀.၁၆၅ ဧက (၆၆၇.၇၃ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၆၀ပေ x ၁၂၀ပေ ၁ ထပ်အဆောက်အဦ တစ်လုံး(စက်ရုံ) |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် |
| ၃။ | နှစ်စဉ်မြေ ငှားရမ်းခ | - ပထမနှစ် ကျပ် ၂၈,၈၀၀,၀၀၀<br>- ပထမနှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၄၃,၁၃၁ နှုန်း<br>- ဒုတိယနှစ် ကျပ် ၃၀,၀၀၀,၀၀၀<br>- ဒုတိယနှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၄၄,၉၂၈ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၃ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၁.၄၂ သန်း<br>(US$သန်း) |
| | ငွေသား | ၁.၁၀ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၀၃ |
| | စက်နှင့်စက်ပစ္စည်း (ပြည်တွင်း) | ၀.၁၄ |
| | အဆောက်အဦပြင်ဆင်စရိတ် | ၀.၁၅ |
| | **စုစုပေါင်း** | ၁.၄၂ |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - **၅၅ ဦး** |
| | ပြည်တွင်း | - ၅၄ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၁၄၀,၂၅၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၆၃၇,၅၀၀) |
| | ပြည်ပ | - ၁ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။) |
| | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - US$ ၃.၁၂၇ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ် ) | - US$ ၂.၆၂၁ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၀.၅၀၆ သန်း |
| ၈။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၁၆၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | US$ ၀.၁၄၈ သန်း |

| | | |
|---|---|---|
| | အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၉.၃၉ %<br>(1 US$ ဒေါ်လာလျှင် ၁၂၇၅ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။) |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ပုံမှန်နှစ်) | - ၉,၆၀၀ kWh |
| ၁၀။ | ထုတ်လုပ်မည့်ပစ္စည်းများ (၆နှစ်မြောက်) | - |

| | ထုတ်လုပ်မှုအရေအတွက်(Ton) | ပြည်တွင်းရောင်းဈေး (US$ /Ton) |
|---|---|---|
| Super Plasticizer | ၈၈၂ | ၁,၃၀၀ |
| Plasticizer | ၇၅၆ | ၁,၁၀၀ |
| Waterproof Agent | ၁၂၆ | ၁,၃၀၀ |
| Accelerating Agent | ၁၂၆ | ၁,၃၀၀ |
| Retarding Agent | ၆၁၇ | ၁,၃၀၀ |
| Anti Foaming Agent | ၁၃ | ၁,၅၀၀ |

| | | |
|---|---|---|
| ၁၁။ | CSR | - လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြု မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကာကွယ်ရေး | မီးဘေးကာကွယ်ရေးစီမံချက်ကိုလည်းတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Ezcon Company Limited |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၁.၄၂ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | - | ၃၀ နှစ် |
| အရင်းကြေကာလ | - | ၄ နှစ် ၁ လ |
| IRR | - | ၁၉.၃၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂.၀၁၈ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၆၁၃.၉၂၀ သန်း |
| ၅ | ဝင်ငွေခွန် | ကျပ် ၆၀၇.၃၆၇ သန်း | ကျပ် ၁၀၇၅.၁၇၅ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၆.၂၇၂ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း (၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၂) ဦး |
| ၈ | CSR ၂% | | ကျပ် ၁၀၀.၁၉၇ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၂၉၈.၈၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၅၄ ဦး<br>ပြည်ပ ၁ ဦး<br>ပြည်တွင်းလုပ်သား (၅၄) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၆၁၁.၅၄၅ သန်း** | **ကျပ် ၃၀၉၅.၅၂၉ သန်း** |
| | | ၁ | ၅ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၃/န-၁၃၁၆/၂၀၁၆( ၈၃၃ )က
ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန်လ ၃၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ezcon Co., Ltd. တည်ထောင်ကာ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော KH T&L Co., Ltd. မှ ၉၉.၉၉၉% နှင့် Mr. Kim Seokkyun မှ ၀.၀၀၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Ezcon Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၀.၁၆၅ ဧက (၆၆၇.၇၃ စတုရန်းမီတာ)ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ကြည်ကြည်တင် နှင့် Ezcon Co., Ltd. တို့ချုပ်ဆိုမည့် မြေနှင့်အဆော က်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြမြေပုံများ၊ မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့် ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင် (ယာယီ) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေနှင့်အဆောက်အဦ ငှားရမ်းမည့် သက်တမ်းမှာ ၃၀ နှစ်ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့်ဧရိယာ ၀.၁၆၅ ဧက (၆၆၇.၇၃ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ ၆၀ပေx၁၂၀ပေ အကျယ် အဆောက်အဦတစ်လုံးအား တစ်လလျှင် ကျပ် ၂,၄၀၀,၀၀၀ နှုန်းဖြင့် ပထမနှစ် အတွက် ကျပ် ၂၈,၈၀၀,၀၀၀၊ ဒုတိယနှစ် အတွက်တစ်လလျှင် ကျပ် ၂,၅၀၀,၀၀၀၊ ကျန်နှစ်များအတွက် နှစ်ဖက်သဘောတူညီမှုဖြင့် ယခင်ငှားရမ်းခ၏ ၁၀% ထက်မပိုသောနှုန်းဖြင့် ငှားရမ်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည် ဆောက်မှုကာလမှာ (၃)လကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ US$ ၁.၄၂ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | US$ (သန်း) |
|---|---|
| ငွေသား | ၁.၁၀ |
| စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၀၃ |
| စက်နှင့်စက်ပစ္စည်း (ပြည်တွင်း) | ၀.၁၄ |
| အဆောက်အဦပြင်ဆင်စရိတ် | ၀.၁၅ |
| **စုစုပေါင်း** | ၁.၄၂ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း (၅၄) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁) ဦး စုစုပေါင်း (၅၅) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၄၀,၂၅၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၆၃၇,၅၀၀ ဖြစ်ပါသည်။ ပြည်ပ တစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော Concrete Admixture များကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ-

| | ထုတ်လုပ်မှုအရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|
| Super Plasticizer | ၈၈၂ | ၁,၃၀၀ |
| Plasticizer | ၇၅၆ | ၁,၁၀၀ |
| Waterproof Agent | ၁၂၆ | ၁,၃၀၀ |
| Accelerating Agent | ၁၂၆ | ၁,၃၀၀ |
| Retarding Agent | ၆၁၇ | ၁,၃၀၀ |
| Anti Foaming Agent | ၂၃ | ၁,၅၀၀ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃.၁၂၇ |
| (ခ) | အသုံးစရိတ် | ၂.၆၂၁ |
| (ဂ) | အသားတင်အမြတ် | ၀.၅၀၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၁၆၈ သန်း၊ ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၁၄၈ သန်းရရှိ မည်ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၄ နှစ် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး

အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၉.၃၉ % ဖြစ်ပါသည်။ ငွေလဲလှယ်နှုန်းကို အမေရိကန် ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၇၅ ကျပ် နှုန်းဖြင့် တွက် ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၄-၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၅/၂၀၁၆ ဆုံးဖြတ်ချက်အပိုဒ် ၅ အရ Ezcon Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန(ယခင် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန)** မှ အဆိုပြု လုပ်ငန်းဆောင်ရွက် ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည် -

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ နည်းပညာများအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility-CSR) အတွက် (၂%) အားအသုံးပြုခြင်းတို့ အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် (သို့မဟုတ်) ထိခိုက်မှု မရှိစေရေးတို့အတွက် အဆိုပြုလွှာ တွင်ဖော်ပြပါရှိသည့်အတိုင်းကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကိုရေးဆွဲပြီး အစီရင်ခံစာပြုစု တင်ပြရန်နှင့် ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကိုဆောင်ရွက်ရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်းရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်

မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှု အစီအစဉ် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ IEE Report ကိုရေးဆွဲတင်ပြထားပါသည်။** **နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော ထုတ်ကုန်ပစ္စည်းများသည် ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများဖြစ်ရာ အရည်အသွေးသည် အရေးကြီးသော အချက်ဖြစ်၍ အလေးထား ဆောင်ရွက်ရန်လိုကြောင်း၊ ဝန်ကြီးဌာနအနေဖြင့်ကြွေထည်၊ မြေထည်လုပ်ငန်းများနှင့် နီးနွယ်သောလုပ်ငန်းများသာဆောင်ရွက်နေခြင်းဖြစ်ရာ ကွန်ကရစ်ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကွန်ကရစ်ဖျော်ရာတွင် အသုံးပြုထုတ်လုပ်မည့် ဓါတုပစ္စည်းများ ထုတ်လုပ်ခြင်းအတွက် စိစစ်နိုင်ခြင်း မရှိပါကြောင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါကကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(ဂ)**

(ဃ) **မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း** မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအစမံများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ၊စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ၊ ရေးဆိုးသန့်စင်စက်ရုံတည်ဆောက်တပ်ဆင်မှု အစီအမံများ ၊ အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါကတုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများတင်ပြမှသာလျှင် ကော်မရှင်မှ ခွင့်ပြုသင့်ပါကြောင်း၊ ဓါတုပစ္စည်း အသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့် ကုန်ကြမ်းသယ်ယူခြင်းမှ ကုန်ချောထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးတွင် မြန်မာနိုင်ငံဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ(Prevention of Hazard from Chemical and Related Substances Law) အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးအား ထုတ်လုပ်သူမှတာဝန်သိ စောင့်ရှောက်မှု

ကောင်စီ (Myanmar Responsible Care Council) နှင့် ပူးပေါင်း၍ Responsible Care Activities များဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မှုအတွက် Environmental Impact Assessment (EIA) ကို စဉ်ဆက်မပြတ် အကောင်အထည်ဖော် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ ၎င်းသဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ **(အလံ-က)** ၊ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေးအစီအမံများ**(အလံ-ခ)**၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ် အရည်များ စီမံခန့်ခွဲမှုအစီအမံများ**(အလံ-ဂ)**၊ ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်မည့် အစီအမံများ**(အလံ-ဃ)**၊ အရေးပေါ် အခြေအနေနှင့်ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများ **(အလံ-င)** တို့ဖြင့်တင်ပြထားပြီး ထုတ်လုပ်မှုဖြစ် စဉ်တစ်လျှောက်လုံးအား ထုတ်လုပ်သူမှ တာဝန်ယူဆောင်ရွက်ပေးမည်ဖြစ်ကြောင်း စသည်တို့ပါဝင်သည့် **IEE Report ကို ရေးဆွဲတင်ပြထားပါသည်။** **နောက်ဆက်တွဲ(ဃ)**

၁၁။ ငွေရေးကြေးရေးအထောက်အထားအဖြစ် KH T&L Company Limited သည် ကိုရီးယားသမ္မတနိုင်ငံရှိ Shinhan Bank တွင် ၁၉-၁၀-၂၀၁၅ ရက်စွဲဖြင့် US$ ၇၇,၇၂၈.၁၃ ရှိကြောင်းနှင့် ကိုရီးယားသမ္မတနိုင်ငံတွင် ၁၃၀-၈၆-၉၀၃၀၂ (၂၈-၂-၂၀၁၄) ဖြင့် မှတ်ပုံတင်ထားကြောင်း တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** အရေးပေါ် မီးဘေးအန္တရာယ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးပြီး ဝန်ထမ်းများကိုလည်း စည်းကမ်းအတိုင်း တိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားပါကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှု အနေဖြင့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံအဆောက်အဦများအား မီးလောင်မှုမှကာကွယ်ရန် ရေပုံး၊မီးကပ်၊သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိပါကြောင်း၊ စက်ရုံရှိနံရံများတွင်လည်း မီးသတ်ဘူးများ ချိတ်ဆွဲထားမည် ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှချမှတ်ထားသော မီးဘေးအန္တရာယ်အတွက် စည်းမျဉ်းစည်းကမ်းချက်များ၊ စက်ရုံအနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားခြင်း လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ Ezcon Co., Ltd. မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင် ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းအစီအစဉ် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး စသည့်ကိစ္စရပ်များတွင်သုံးစွဲနိုင်ရန် အတွက်နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ် ကြောင်းတင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်း သက်သာ ချောင်ချိရေး အစီအစဉ်

နှင့် တစ်နှစ်လျှင် ဝင်ငွေကျပ်သိန်း (၄၈) နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများပြင်ဆင်သတ်မှတ်ခြင်းတွင်ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စု အစိုးရအဖွဲ့၏ ၈/၂၀၁၆ (၂၅-၂-၂၀၁၆) မှ ခွင့်ပြုပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Ezcon Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၀.၁၆၅ ဧက(၆၆၇.၇၃ စတုရန်းမီတာ) ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ Concrete Admixture များထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

# ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Ezcon Co., Ltd. | KH T&L Co., Ltd.<br>Represented By | 19,Seokcheon-ro 170 beon-gil, Wonmi-gu, Bucheon-si, Gyeong gi-do. |
| | | (1) Mr. Kim Seokkyun<br>Managing Director<br>Korean<br>P.P No. IC1254206 | Jung-dong, Wonmi-gu,Bucheon-si, Gyeonggi-do, Korea. |
| | | (2) Mr. Hong Ki-Sun<br>Director<br>Korean<br>P.P No. M22868633 | Naengieong-gil 48 becon-gil, Seonwon-myeon, Ganghwa-gyn, Incheon, Korea |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၀၀၇၅၂

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်အေးသီတာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Concrete Admixture များထုတ်လုပ်ရောင်း ချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

နောက်ဆက်တွဲ "က"

**EZCON**

No.435,Pathein Street,23 Quarter, Industrial Zone(1), South Dagon Town Ship, Yangon, Myanmar
TEL : 01 –2348519 / 09264571717

M-823
17/5

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏
အမှတ်(၁)၊သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

Ezcon Company Limited.
No:----------
Date:----------

ရက်စွဲ။ ။ ၂၀၁၆ခုနှစ် ၊ မေလ၊ (၁၆) ရက်

အကြောင်းအရာ။ ။ EZCON CO.,LTD ၏ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများ အသင်း၏ သဘောထားမှတ်ချက်များအား လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်းတင်ပြခြင်း

ကျွန်တော်များကုမ္ပဏီသည် ဓာတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့်

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ

Examination

ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် အစီရင်ခံစာ ( Initial Environmental Exuminution IEE Report) တင်ပြပြီး ၎င်းအစီရင်ခံစာအတိုင်း ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် အကောင်အထည် ဖော်ဆောင်ရွက်ရန် ပြင်ဆင်ထားပါသည်။
ထို့အပြင် ထိခိုက်မှုများ သက်သာလျော့နည်းစေရန်အတွက်လည်း 3R စနစ်ကို အခြေခံခြင်းများ၊ ရေအိမ်များမှ ထွက်ရှိသည့် အညစ်အကြေးများကိုလည်း Septic Tank စနစ်များ ထားရှိအသုံးပြုပါသည်။
စိမ်ကိန်းပုံမှန်လုပ်ငန်းများ လုပ်ဆောင်ရာတွင် အသုံးပြုမည့် ကုန်ကြမ်းကုန်ချောများတွင် Chemical များ အဓိကပါဝင်သောကြောင့် ထုတ်လုပ်မှုနည်းစနစ်များအတိုင်း မလိုက်နာဘဲ ဖိတ်စဉ်မှုများကို အလွယ်တကူ စွန့်ပစ်မည်ဆိုပါက ပတ်ဝန်းကျင်ကို ညစ်ညမ်းမှုဖြစ် စေနိုင်ပြီး ထိခိုက်နိုင်ပါသည်။

သို့ဖြစ်ပါ၍ထုတ်လုပ်မှု လမ်းစဉ်ကို တိကျစွာ လိုက်နာရန်လိုသည့်အပြင် မဖြစ်မနေ ဖိတ်စဉ်မှုများနှင့် အခြားသောစွန့်ပစ်အမှိုက်များ ကို Reduce , Reuse & Recycle စနစ်များကို အသုံးပြုခြင်းဖြင့် ပတ်ဝန်းကျင် အပေါ် ဆိုးကျိုးများ သက်ရောက်မှုအပေါ် လျော့ချ ပေးရာရောက်မည်ဖြစ်ပါသည်။

၁။ သတ်မှတ်သည့် အရေအသွေးနှင့် ပမာဏရရှိစေရန် တိကျစွာ လုပ်ကိုင်ခြင်းဖြင့် ပစ္စည်းများ လေလွင့်မှုမရှိဘဲ စွန့်ပစ်အမှိုက်များ လျော့ကျမည်ဖြစ်ပါသည်။ (စက်ကိုင်တွယ် ၊ ချိန်တွယ်မှုများ ကျွမ်းကျင်ရန်အတွက် အရည်အသွေးမြင့် သင်တန်းများ ပြုလုပ်ပေးခြင်း။)
၂။ ပြန်လည်၍ အသုံးပြုနိုင်သည့် ပစ္စည်းများကို ပြန်လည် အသုံးပြုခြင်းဖြင့်လည်း စွန့်ပစ်အမှိုက်များကို လျော့ချပြီး ပတ်ဝန်းကျင် ထိခိုက်မှုကို သက်သာစေမည်ဖြစ်ပါသည်။
၃။ ထုတ်ပိုးမှုများတွင် အသုံးပြုသည့် ပစ္စည်းများကို ကုန်ချောဖြစ်စေရန် ပြုလုပ်သောနည်း သို့မဟုတ် အခြားသော ထုတ်ကုန်တမျိုးထုတ်လုပ်သောနည်းများကို အသုံးပြုခြင်းဖြင့် စွန့်ပစ်အမှိုက်များကို လျော့နည်းစေပြီး ပတ်ဝန်းကျင် ထိခိုက်မှုကို သက်သာစေမည် ဖြစ်ပါသည်။

အထက်ပါအတိုင်း ပြုလုပ်ပြီး မဖြစ်မနေ ကျန်ရှိသော အမှိုက်များကို မြို့တော်စည်ပင်သာယာရေးသို့ ဆက်သွယ်ပြီး စနစ်တကျ စွန့်ပစ်ခြင်းဖြင့်လည်း ပတ်ဝန်းကျင် ထိခိုက်မှုများကို လျော့ချစေနိုင်မည် ဖြစ်ပါသည်။

လုပ်သားများအသုံးပြုရန် ရေချိုးခန်း၊ ရေအိမ်များကိုလည်း စနစ်တကျ သန့်ရှင်းစွာ တပ်ဆင်ထားပါသည်။

(ခ) လုပ်ငန်းခွင် အန္တရာယ် ကင်းရှင်းရေး အစီအမံများ

EZCON Co., Ltd ၏ Concrete Admixture အမျိုးမျိုးထုတ်လုပ်ရေး လုပ်ငန်းစီမံကိန်းတွင် အောက်ပါ ထုတ်ကုန် အမျိုးအစား များနှင့် လုပ်ငန်းစဉ်များပါဝင်မည်ဖြစ်ပါသည်။

1. Super Plasticizer
2. Plasticizer
3. Water Proof Agent
4. Accelerating Agent
5. Retarding Agent
6. Anti Foaming Agent

စသည်တို့ ဖြစ်ပါသည်။

စက်ရုံ၏ အဓိကလုပ်ငန်းများမှာ အောက်ပါတို့ဖြစ်ပါသည်။




ကျွန်တော်တို့ Concrete admixture သည် မီးလောင်စေသော အဆိပ်သင့်စေသော Chemical အမျိုးအစား မဟုတ်ဘဲ လုပ်သားအတွက် အန္တရာယ်ရှိမှု နည်းပါးခြင်းကြောင့် Hazard Statement နှင့် ထိခိုက်မှုများ မဖြစ်ပေါ်စေရန် ကြိုတင်ကာကွယ် ကိုင်တွယ်ခြင်းနှင့် မတော်တဆ ထိတွေ့မှုများ ဖြစ်ပေါ်ပါက အရေးပေါ်ရှေးဦးပြုစုနည်းများ ပါဝင်သော Material Saftly Data Shet တို့ကို တင်ပြပြီး ဖြစ်ပါသည်။Concrete admixer ထုတ်လုပ်သောကြောင့် လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းစေရန် ဝန်ထမ်းများအတွက် safety နှင့်ပတ်သတ်သော အကာအကွယ်များဖြစ်သော safety ဦးထုပ်၊ mask, safety shoe ,လက်အိတ် စသဖြင့် လုပ်သားအတွက် စီမံပေးထားပါသည်။

စာ "၈"

Ezcon Company Limited.
No:----------
Date:----------

(ဂ) စွန့်ပစ်ပစ္စည်း စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ

Contrete Admixture ၏ ကုန်ကြမ်းများကို သိုလှောင်ခြင်း၊ ထုတ်ယူသုံးစွဲခြင်း လုပ်ငန်းအဆင့်ဆင့်တို့တွင် လိုအပ်သည့် ပမာဏအတိုင်းသာ အသုံးပြုသွားမည် ဖြစ်ပြီး အလေအလွင့်များ မရှိစေရန်လည်း ထိန်းသိမ်းစီမံထုတ်လုပ်သွားမည် ဖြစ်သဖြင့် စွန့်ပစ်အနေဖြင့် သော်လည်းကောင်း ၊ အနံ့အနေဖြင့်သော်လည်းကောင်း ထွက်ရှိလာမည် မဟုတ်ပါသဖြင့် သဘာဂပတ်ဂန်းကျင်ကို ထိခိုက်မည် မဟုတ်ပါ။ ဂန်ထမ်းများ၏ ရေအိမ် ၊ ရေချိုးခန်းများမှ စွန့်ပစ်ရေဆိုးများထွက်ရှိမည်ကို ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်ပြီး အပြည်ပြည်ဆိုင်ရာ စံချိန် စံညွှန်းများနှင့် ကိုက်ညီအောင်ဆောင်ရွက်မည်ဖြစ်ပါသည်။

စက်ရုံ၏ ထုတ်လုပ်မှုလမ်းစဉ်အရ စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များမထွက်ရှိကြောင်း Process Flow ဆိုင်ရာ မှတ်တမ်းများအရ သိရှိနိုင်ပါသည်။ သို့ရာတွင် ဓါတုအခြေခံပစ္စည်းများ (Polyester Fabric, Nylon) စသည်တို့အား သုံးစွဲရန် လိုအပ်မည် ဖြစ်ပါသည်။ အဆိုပါ ပစ္စည်းများကို သိုလှောင်ခြင်း၊ ထုတ်ယူသုံးစွဲခြင်း လုပ်ငန်းအဆင့်ဆင့်တို့တွင် လိုအပ်သည့် ပမာဏအတိုင်းသာ အသုံးပြုသွားမည် ဖြစ်သကဲ့သို့ အလေအလွင့် များမရှိစေရန်လည်း ထိန်းသိမ်းစီမံ ထုတ်လုပ်သွားမည် ဖြစ်သဖြင့် စွန့်ပစ်အနေဖြင့်သော်လည်းကောင်း ၊ အနံ့အနေဖြင့်သော်လည်းကောင်း ထွက်ရှိလာမည် မဟုတ်ပါသဖြင့် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မည်မဟုတ်ပါ။

ထုတ်လုပ်မှုတွင် အဓိက အသုံးပြုမည့် ကုန်ကြမ်းများဖြစ်သော

1. Polycarbonylic copolumer solution (PEMA_300ES or PERMA_300EM or PR 100 or PEMA_AE)
2. Calcium Lingnosulfonate Acid (PEMA SG)
3. Sodium Gluconate (PEMA_SG)
4. Polyxyalkylene alky ether solution (PEMA_PAF or ROADCON_AWA)
5. Aluminium compound solution (MS_1000 or MS_3000)
6. Calcium Lingnosulfonate (K& P Waterproof or Waterproof)

စသည်တို့ကို နိုင်ငံခြားမှ တင်သွင်းမည်ဖြစ်၍ ၎င်းတို့ကို ထုတ်လုပ်ရာတွင် ဖြစ်ပေါ်မည့် ပတ်ဝန်းကျင် ထိခိုက်မှုများကို ရှောင်ရှားနိုင် ပြီးဖြစ်သော်လည်း အဆိုပါ ကုန်ကြမ်းများသည် ဓာတုပစ္စည်းများဖြစ်သဖြင့် လူတို့၏ အရေပြား၊ မျက်စိ၊ လေရှူလမ်းကြောင်းတို့နှင့် ထိတွေ့ မှု အချိန်ကြာမြင့်ခြင်းတို့ကြောင့် ကျန်းမာရေးထိခိုက်နိုင်ပါသဖြင့် အဆိုပါ ကုန်ကြမ်းများကို အလေအလွင့်မရှိကောင်းစွာ ကိုင်တွယ်စွန့်ပစ်ရမည် ဖြစ်ပါသည်။ 3R (Reduce, Reuse, Recycle) စနစ်ကို အသုံးပြုသွားမည် ဖြစ်ပါသည်။

အထက်ပါဖော်ပြပါ ကုန်ကြမ်းများသည် ယေဘုယျအားဖြင့် ၎င်းတို့နှင့် ထိတွေ့ရသော လုပ်သားများအတွက် အန္တရာယ်ရှိမှု နည်းပါးကြောင်း Hazard Statement နှင့် ထိခိုက်မှုများ မဖြစ်ပေါ်စေရန် ကြိုတင်ကာကွယ်ကိုင်တွယ်ခြင်းနှင့် မတော်တဆထိတွေ့မှု များဖြစ်ပေါ်ပါက အရေးပေါ် ရှေးဦးပြုစုနည်းများ ပါဝင်သော Material Safety Data Sheet တို့ကို ပူးတွဲဖော်ပြထားပါသည်။

အဆိုပါ ဖော်ပြချက်ရ ကြီးမားသော ရောဂါ မဖြစ်နိုင်သော်လည်း အရေပြားနှင့် မျက်စိအတွက် အထူးသတိထားရမည် ဖြစ်ပါသဖြင့် ထိတွေ့ကိုင်တွယ်နေရသော အလုပ်သမားဝန်ထမ်းများအတွက် လိုအပ်သော သင်တန်းပေးခြင်းကဲ့သို့ အသိပညာပေးသင်တန်းများကို မပြတ်လုပ်ဆောင်သကဲ့သို့ လေ့ကျင့်မှုနှင့် စည်းကမ်းများ လိုက်နာမှုများကိုလည်း အစဉ်မပြတ် စောင့်ကြပ်ကြည့်ရှုခြင်းအားဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုများကို လျှော့ချနိုင်မည် ဖြစ်ပါသည်။ လုပ်သားများအတွက် လုပ်ငန်းခွင် ထိခိုက်မှုမရှိစေရန်လည်း ဝတ်စုံနှင့် နာစည်းများကို ဝတ်ဆင်လုပ်ကိုင်စေမည် ဖြစ်ပါသည်။

စက်ရုံ၏ လုပ်ငန်းများအမှန်တကယ် လည်ပတ်သည့်အခါတွင် ဝန်ထမ်းများ၏ ရေအိမ် ၊ ရေချိုးခန်းများမှ စွန့်ပစ်ရေဆိုးများ ထွက်ရှိမည်ကို အပြည်ပြည်ဆိုင်ရာ စံချိန်စံညွှန်းများနှင့် ကိုက်ညီသည့် ရေဆိုးများ သန့်စင်သည့် စနစ်များပါရှိသောကြောင့် ပတ်ဝန်းကျင် ထိခိုက်ရန် အကြောင်းမရှိပါ။

( ဃ)    ရေဆိုးသန့်စင်စက်ရုံတည်ဆောက်တင်ဆက်မှု အစီအမံများ

စက်ရုံတွင်ထွက်ရှိသော ရေချိုးခန်း ၊ ရေအိမ်များမှ ထွက်ရှိသော အညစ်အကြေးများ၊ မီး ဖို ဆောင်များမှ ထွက်ရှိသော အညစ်အကြေးများ၊ ကုန်ကြမ်းများ ဖိတ်စင်မှုမှ ထွက်ရှိသော အညစ် အကြေးများကို ရေဆိုးရေညစ်များ ပြုပြင်သော နည်းစနစ် Septic Tunk With Chlorination Well စနစ်ကို တည်ဆောက်အသုံးပြု မည်ဖြစ်ပါသည်။ Treatment လုပ်ထားသော စွန့်ပစ်ရေကို အဆောက်အဦး ပတ်လည်တွင် တည်ဆောက်ထားသည်။ Inter Druin များမှ တဆင့် အများ ပိုင် ရေမြောင်းသို့ စွန့်ပစ်မည်ဖြစ်ပါသည်။ လိုအပ်ပါက ရေမြောင်းကွန်ရက်အား လိုအပ်သလို တိုးချဲ့ တည်ဆောက်သွားမည် ဖြစ်ပါသည်။

စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များဆိုင်ရာ လေ့လာဆန်းစစ်မှုနှင့် စီမံထားရှိမှု

စက်ရုံ၏ ပုံမှန်လည်ပတ်မှု လမ်းစဉ်အရ စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များသည် အောက်ပါအတိုင်းထွက်ရှိနိုင်ကြောင်း Process Flow ဆိုင်ရာ မှတ်တမ်းများအရ သိရှိနိုင်ပါသည်။

(က) ရေချိုးခန်း၊ ရေအိမ်များမှ ထွက်ရှိသော အညစ်အကြေးများ
(ခ ) မီးဖိုဆောင်များမှ ထွက်ရှိသော အညစ်အကြေးများ
(ဂ ) ကုန်ကြမ်းများဖိတ်စဉ်မှုမှ ထွက်ရှိသော အညစ်အကြေးများ

အဆိုပါ ရေဆိုး ရေညစ်များကို ပြုပြင်သောနည်းစနစ်များကို အောက်ပါအတိုင်း

| | | |
|---|---|---|
| 1. | Waste from the Industry | Concrete Waste Tank System |
| 2. | Waste from Toilet | Coventional Septic Tank with bleach dosing chamber |
| 3. | Waste from Kitchen | Remove oil & grease through Grease Trap before drainage |
| 4. | Laundry waste | Natural soak pit according to WHO recommendation |



ဇယား “င”








ယခုစီမံကိန်းအတွက် ရေဆိုးသန့်စင်စနစ်နှင့် ပတ်သတ်သည့် အချက်များကို အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်။

Septic Tank

| | |
|---|---|
| Treatment Method: | Excellent Performance with massive reduction of BOD |
| (BOD) Influent | 70% ~80% reduction |

စီမံကိန်းတစ်ခုလုံးအနေဖြင့် အမှိုက်များကို အလွယ်တကူ သိမ်းဆည်းနိုင်သကဲ့သို့ ရေချိုးခန်း၊ အိမ်သာများမှ ထွက်ရှိသော ရေဆိုး ရေညစ်များကို စနစ်တကျ စုဆောင်းပြီးသိုလှောင်ပြီး သန့်စင်ပြီးမှသာ တစ်ခုလုံး၏ ရေဆိုးထုတ်စနစ်သို့ တိုက်ရိုက် သို့မဟုတ် သီးခြားထပ်မံ ဌားရမ်း အသုံးပြုမည့် ဝန်ဆောင်မှု လုပ်ငန်းကုမ္ပဏီမှ တဆင့် စွန့်ထုတ်ရန်ရှိပါသည်။

Ezcon Company Limited.
No:----------
Date:----------

(င )　　အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများ

အလုပ်ချိန် စက်ရုံအတွင်း မီးလောင်ခဲ့လျှင် အောက်ပါအတိုင်း ဆောင်ရွက်ရမည်။

၁။ စက်ရုံအတွင်းရှိ ပစ္စည်းများ၊ အမှိုက်များ (သို့မဟုတ်) ဌာနအတွင်း၌ မီးလောင်ခဲ့သော် ပထမဆုံးတွေ့ရှိသူမှ မီး-မီး-မီး ဟု အော်၍ နီးစပ်ရာ သံချောင်း (သို့မဟုတ်) ခါတ်တိုင် (သို့မဟုတ်) အသံမည်စေနိုင်သည့် အရာတစ်ခုခုကို အခြားသူများရောက်ရှိလာသည်အထိ အဆက်မပြတ် တီးခေါက်အချက်ပေးရမည်။
၂။ မီး-မီး-မီး ဟု အော်သံကိုလည်းကောင်း၊ အဆက်မပြတ် သံချောင်းခေါက်သံကိုလည်းကောင်း ကြားရသူသည် ဌာနတာဝန်ခံသို့ ချက်ချင်းအကြောင်းကြားရမည်။
၃။ စက်ရုံ ဝင်းအတွင်း မီးလောင်လျှင် ဦးစားပေးဆောင်ရွက်ရမည့် ပစ္စည်းများကို အမြန်ဆုံး ပြောင်းရွှေ့ပြီး ပတ်ဝန်းကျင်သို့ မီးမကူးစက်ရေးအတွက် လိုအပ်သလို အဆောက်အဦးဖျက်ခြင်း ပြုလုပ်ရမည်။
၄။ မီးလောင်သည်ကို သိလျှင်သိခြင်း မိမိဌာနတွင် အစောင့်ထားခဲ့ပြီး ကျန်လုပ်သားများအားလုံး မီးလောင်ရာနေရာသို့ မိမိဌာနရှိ ရေပုံးများ၊ မီးချိတ်များ၊ မီးကပ်များ ယူဆောင်၍ အမြန်ဆုံး သွားရောက်ငြိမ်းသတ်ရမည်။
၅။ အနီးဆုံးစက်ရုံ၊ မီးသတ်တပ်ဖွဲ့များသို့ မည်သည့်နေရာတွင် မီးလောင်ကြောင်းကို သတင်းပို့ရမည်။
၆။ ပြင်ပမီးသတ်ကားများ ရောက်ရှိလာပါက မီးလောင်သည့် နေရာသို့ အမြန်ဆုံး ရောက်ရှိနိုင်ရေးအတွက် လုံခြုံရေး ဝန်ထမ်းများ လိုက်ပါလမ်းညွှန်ပေးနိုင်ရန် စီစဉ်ထားရမည်။
၇။ မီးလောင်မှု ဖြစ်ပွါးရာ နယ်မြေအတွင်း လျှပ်စစ်ကြိုးများဖြတ်တောက်ရန် လျှပ်စစ်နှင့် ပြင်ဆင်ထိန်းသိမ်းရေးဌာနမှ အဖွဲ့သည် မီးသတ်ကားနှင့်အတူ အမြန်ဆုံး သွားရောက်ရမည်။

အလုပ်ချိန်ပြင်ပတွင် မီးလောင်ခဲ့လျှင် စီစဉ်ဆောင်ရွက်ထားရှိမှုများ

အလုပ်ချိန်ပြင်ပတွင် စက်ရုံအတွင်း မီးလောင်ခဲ့လျှင် အောက်ပါအတိုင်း ဆောင်ရွက်ရမည်။
၁။ ရုံးပိတ်ရက်များ၊ ညအချိန်များတွင် မီးလောင်သည်ကို တာဝန်မှူး (သို့မဟုတ်) တစ်ဦးဦးက သိရှိတွေ့မြင်သည်နှင့် တပြိုင်နက် မီး-မီး-မီး ဟုအော်၍ နီးစပ်ရာ သံချောင်း (သို့မဟုတ်) ခါတ်တိုင် (သို့မဟုတ်) အသံမည်စေနိုင်သည့် အရာတစ်ခုခုကို အခြားသူများရောက်ရှိလာသည်အထိ အဆက်မပြတ် တီးခေါက်အချက်ပေးရမည်။
၂။ မိမိကိုယ်တိုင်သိရှိခြင်း သို့မဟုတ် အချက်ပေးသံကြားသည်နှင့် တပြိုင်နက် တာဝန်မှူးသည် စက်ရုံစက်ရုံမှူး ၊ ဒုစက်ရုံမှူးနှင့် တာဝန်ရှိသူများကို ချက်ခြင်းတယ်လီဖုန်းဖြင့်ဖြစ်စေ၊ ဆက်သားဖြင့်ဖြစ်စေ အကြောင်းကြားရမည်။
၃။ မိမိစက်ရုံနှင့် အနီးဆုံးရှိမီးသတ်ဌာနသို့ မီးသတ်ကားအကူအညီရရှိရေးအတွက် ဆက်သွယ်သတင်းပို့ရမည်။
၄။ မီးလောင်သည့်နေရာမှ အခြားအဆောက်အအုံများသို့ မီးမကူးစက်ရေးနှင့် အရေးကြီးပစ္စည်းများပြောင်းရွှေ့ရေး၊ စနစ်တကျ မီးငြိမ်းသတ်ရေးတို့ကို တာဝန်ရှိသူမှ ကြပ်မတ် ကွပ်ကဲရမည်။
၅။ ပြင်ပမှ မီးသတ်ကားများ၊ ရေကားများရောက်ရှိလာပါက မီးလောင်သည့်နေရာသို့ အမြန်ဆုံး ရောက်ရှိရေးအတွက် လုံခြုံရေး ဝန်ထမ်းများ ထည့်ပေးပြီး လမ်းပြစေရမည်။
၆။မီးငြိမ်းသတ်ပြီးလျှင် မီးလောင်နယ်မြေအတွင်း ပစ္စည်းအသေးစိတ် မစစ်ဆေးနိုင်မီ (နေ့၊ည) လုံလောက်သော အစောင့်အရှောက်များ ချထားရမည်။

အုပ်ချုပ်မှုနှင့် ထောက်ပံ့ပို့ဆောင်ရေး

၁။ မီးသတ်ယာဉ်၊ ရေကား၊ ပစ္စည်းများသယ်ယူရန် ယာဉ်များနောင့်နှေးကြန့်ကြာမှု မရှိစေဘဲ စေလွှတ်နိုင်ရန် စီစဉ်ပေးရမည်။
၂။ မီးလောင်စဉ် ပစ္စည်းများပျောက်ဆုံးမှုမရှိစေရေး၊ ရုံးရင်းဆန်ခတ်မှုနှင့် လုယက်မှုများ မဖြစ်ပွားစေရန် လုံခြုံရေးဌာနမှ တာဝန်ယူဆောင်ရွက်ရမည်။
၃။ မီးလောင်ရာတွင် ဒဏ်ရာရသူများအား နီးစပ်ရာ ဆေးခန်း၊ ဆေးရုံများသို့ ပို့ဆောင်ကုသသွားရမည်။
၄။ မီးလောင်မှုဖြစ်ပွါးပါက တယ်လီဖုန်းဖြင့် ဆက်သွယ်ပြီး ရုံးချုပ်သို့ အချိန်နှင့် တပြေးညီ သတင်းပို့ရမည်။

Ezcon Company Limited.
No:----------
Date:----------

ကွပ်ကဲမှုနှင့် ဆက်သွယ်ရေး

မီးလောင်မှုဖြစ်ပွားသည့်နေရာကို မီးငြိမ်းသတ်ရေးအတွက် စက်ရုံမှူး၊ ဒုစက်ရုံမှူးနှင့် ဌာနမှူးအပြင် တာဝန်မှူးတို့မှ အနီးကပ် ကွက်ကဲသွားရမည်။
ဆက်သွယ်ရေးအဖြစ် မီးလောင်လျှင် အချက်ပေးသံချောင်း၊ ဆက်သားနည်းအပြင် တယ်လီဖုန်းဖြင့် ဆက်သွယ် အကြောင်း ကြားရမည်။

Kim SK
လေးစားစွာဖြင့်

Mr. Kim Seokkyun
Managing Director
Ezcon Company Limited.

Mr.Kim Seok Kyun
MANAGING DIRECTOR
EZCON COMPANY LIMITED

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ်... ၆၁၉...
ရက်စွဲ... ၁၁/၂/၁၄
ရန်ကုန်တိုင်းဒေသကြီး

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

သို့

၅၅ . ၄၈၇၁
15/2/16.

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁. ၁. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၃/ န-၁၃၆၁/၂၀၁၆(၉၀)

၁။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော KH T&L Co., Ltd. မှ ၉၉. ၉၉၉% နှင့် Mr. Kim Seokkyun မှ ၀. ၀၀၁% တို့အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Ezcon Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၀. ၁၆၅ ဧက (၆၆၇. ၇၃ စတုရန်းမီတာ)ရှိ မြေအားငှားရမ်း၍ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၅၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၀. ၁၆၅ ဧက (၆၆၇. ၇၃ စတုရန်းမီတာ)အား တစ်နှစ်လျှင်ငွေကျပ် (၂၈၈)သိန်း၊ 22588.2 US$ နှုန်း (1sqft =3.067 US$, 1sqm =33 US$)နှုန်းဖြင့် ကနဦး(၃၀)နှစ်နှင့် နှစ်တိုး(၅)နှစ် (၆)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2016/Cabinet/5.,(3)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့်(၄. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၅)အရ Ezcon Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Ezcon Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

M. ၃၃၃
၁၁/၉

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/MIC(OSS)/ECD/၀၁(၄၄/၁၆)
ရက်   စွဲ ၊၂၀၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Ezcon Co.,Ltd မှ Concrete Admixture များထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ န-၁၃၆၁/ ၂၀၁၆(၈၁)

၁။ ကိုးရီးယားသမ္မတနိုင်ငံတွင်ဖွဲ့စည်းထားသော KHT & Co.,Ltd မှ ၉၉.၉၉%နှင့် Mr.Kim Seokkyum မှ ၀.၀၀၁%တို့အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Ezcon Co.,Ltd တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေဧရိယာစုစုပေါင်း၀.၁၆၅ဧက(၆၆၇.၇၃စတုရန်းမီတာ)ရှိမြေအားငှားရမ်း၍ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၃၀)နှစ်ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ(၃)လဖြစ်ကြောင်း၊ မီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကိုထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသောအသားတင်အမြတ်ငွေမှ(၂%)အားလူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ(Corporate Social Responsibility - CSR)လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းရေးနှင့်ပတ်သက်၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination –IEE ) အားဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြသွားမည်ဖြစ်

ကြောင်းဖော်ပြပါရှိပါသည်။

၃။ Ezcon Co.,Ltd မှ Concrete Admixture အစရှိသောဆောက်လုပ်ရေးလုပ်ငန်းသုံး ဓာတုဗေဒပစ္စည်းများအားထုတ်လုပ်ခြင်းကြောင့် Lingnosulphonate, Sodium gluconate, Polycarboxylic copolymer အစရှိသောဓာတုဗေဒပစ္စည်းများအား စနစ်တကျကိုင်တွယ်ခြင်း၊ အသုံးပြုခြင်း၊ စီမံခန့်ခွဲခြင်းများဆောင်ရွက်ရန်လိုအပ်ပြီး၊ စနစ်တကျစီမံခန့်ခွဲမှု မပြုနိုင်ပါက လေထုညစ်ညမ်းခြင်း၊ ရေထုညစ်ညမ်းခြင်း၊ မြေဆီလွှာညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများသာမက လူတို့၏ကျန်းမာရေးဆိုင်ရာ ထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Ezcon Co.,Ltd မှ Concrete Admixture များထုတ်လုပ်ရောင်းချခြင်း အားဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ နည်းပညာများအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility – CSR )အတွက်(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက်(သို့မဟုတ်)ထိခိုက်မှုမရှိစေရေးတို့အတွက် အဆိုပြုလွှာတွင်ဖော်ပြပါရှိပါသည့်အတိုင်း ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination –IEE ) ကိုရေးဆွဲပြီးအစီရင်ခံစာပြုစုတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA )ကို ဆောင်ရွက်ရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

M.208
3/2

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၈၂၁)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁. ၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃ / န-၁၃၆၁ / ၂၀၁၆ (၉၁)

၁။ Ezcon Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ် (၄၃၅)တွင် Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောတင်ပြချက်တွင် ကုန်ကြမ်းဓါတုပစ္စည်းများအား ပြည်ပမှ ဝယ်ယူသုံးစွဲမည်ဟု ဖော်ပြထားပြီး ကုန်ကြမ်း၊ ကုန်ချောအချိုးအစား ညီညွတ်မှု ရှိပါသည်။

(စ) ထုတ်လုပ်မည့်ပစ္စည်းများအတွက် စက်နှင့်စက်ပစ္စည်းအချိုးအစား ညီညွတ်မှု ရှိပါသည်။

(ဆ) နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အား တင်ပြချက်တွင် Exhibit -7(a)တွင် ဖော်ပြချက်ရ နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အားခန့်ထားမှု ဆီလျော်မှု ရှိပါသည်။

(ဇ) ကုမ္ပဏီမှ ထုတ်လုပ်သော ထုတ်ကုန်ပစ္စည်းများသည် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများဖြစ်ရာ အရည်အသွေးသည် အရေးကြီးသောအချက်ဖြစ်၍ အလေးထား ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဈ) ဤဝန်ကြီးဌာနအနေဖြင့် ကျောက်ထည်၊ မြေထည်လုပ်ငန်းများနှင့် နီးနွယ်သော လုပ်ငန်းများသာ ဆောင်ရွက်နေခြင်းဖြစ်ရာ ကွန်ကရစ်ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကွန်ကရစ်ဖျော်စပ်ရာတွင် အသုံးပြုထုတ်လုပ်မည့် ဓါတုပစ္စည်းများ ထုတ်လုပ်ခြင်းအတွက် စိစစ်နိုင်ခြင်း မရှိပါ။

၃။ သို့ပါ၍ Ezcon Co.,Ltd. မှ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

# မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း

# MYANMAR INDUSTRIES ASSOCIATION

NO.29, MIN YE KYAW SWAR STREET, LANMADAW TOWNSHIP, YANGON, MYANMAR

☎ : 95-1-214830~31 E.mail: industries.association.mm@gmail.com Fax: 95-1-214832


M-671
8.4.16

စာအမှတ်၊ ၀၀၁/၈၀ (စီမံ) ၂၀၁၆ (၁၃၂)

ရက်စွဲ ၊ ၂၀၁၆ခုနှစ် ၊ ဧပြီ လ ၇ ရက်

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း၏ သဘောထားမှတ်ချက်ပေးပို့ခြင်း။

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၁၇-၃-၂၀၁၆ ရက်စွဲပါ စာအမှတ် ရက-၃ /န-၁၃၁၆ / ၂၀၁၆ (၄၃၃-ခ)

အထက်ပါကိစ္စနှင့် ပတ်သက်၍ EZCON Company Limited ၏ မြေကွက်အမှတ်- ၄၃၅ မြေတိုင်းရပ်ကွက် အမှတ် (၂၃)၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး မြေဧရိယာ ၀.၁၆၅ (၆၆၇.၇၃ စတုရန်း မီတာ)ရှိမြေအား ငှားရမ်း၍ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း Chemical Industry Group ၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ ဓါတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့်

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ

(ခ) လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ

(ဂ) စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ

(ဃ) ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်တပ်ဆင်မှု အစီအမံများ

(င) အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများ တင်ပြမှသာလျှင် ကော်မရှင်မှ ခွင့်ပြုသင့်ပါသည်။

၂။ ဓါတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့် ကုန်ကြမ်းသယ်ယူခြင်းမှ ကုန်ချောထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးတွင် မြန်မာနိုင်ငံဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ ကာကွယ်ရေး ဥပဒေ ( Prevention of Hazard From Chemical and Related Substances Law) အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ ထုတ်လုပ်မှုဖြစ်စဉ်တစ်လျှောက်လုံးအား ထုတ်လုပ်သူမှ တာဝန်ယူဆောင်ရွက်ပေးရန် ဖြစ်ပါသည်။ မြန်မာနိုင်ငံတာဝန်သိ စောင့်ရှောက်မှုကောင်စီ (Myanmar Responsible Care Council) နှင့် ပူးပေါင်း၍ Responsible Care Activities များ ဆောင်ရွက်ရန် လိုအပ်ပါသည်။

၄။ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မှုအတွက် Environmental Impact Assessment (EIA) ကို စဉ်ဆက်မပြတ် အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါသည်။

အထွေထွေအတွင်းရေးမှူး (ကစ)
ဒေါ်ရီရီမြင့် (CIG ဗဟိုကော်မတီဝင်)

မိတ္တူကို
- ရုံးလက်ခံ

ကုမ္ပဏီအမည် - Ezcon Co., Ltd.

လုပ်ငန်း - Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

| စဥ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၃-၁-၂၀၁၆ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၁-၁-၂၀၁၆ | ၁၀-၂-၂၀၁၆ | |
| | (ခ) သယံဇာတနှင့်သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (ယခင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန) | ၂၁-၁-၂၀၁၆ | ၂၂-၂-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန(ပထမအကြိမ်) | ၂၁-၁-၂၀၁၆ | ၁-၂-၂၀၁၆ | |
| | (ဃ) မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း (ပထမအကြိမ်) | ၂၁-၁-၂၀၁၆ | ၂၉-၁-၂၀၁၆ | |
| | မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း (ဒုတိယအကြိမ်) | ၂၁-၁-၂၀၁၆ | ၇-၄-၂၀၁၆ | |
| | မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း (တတိယအကြိမ်) | | ၇-၄-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး (၃/၂၀၁၆) သို့ တင်ပြခြင်း | ၁၈-၁-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာ လက်ခံကြောင်းစာပေးပို့ခြင်း | ၁၉-၁-၂၀၁၆ | | |
| ၅ | **အဆိုပြုလွှာပြန်လည်ပေးပို့သည့်ရက်** | ၇-၄-၂၀၁၆ | | |
| ၆ | **အဆိုပြုလွှာပြန်လည်တင်ပြသည့်ရက်** | ၂၆-၄-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပြင်ဆင်၍ တင်ပြခြင်း | ၃၀-၆-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၆၈ ရက်** | | | |

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ezcon Co., Ltd. မှ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြ လာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Ezcon Co., Ltd.<br>Mr. Kim Seokkyun (Korean) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- KH T&L Co., Ltd. (Korea) ၉၉.၉၉၉ %<br>- Mr. Kim Seokkyun (Korean) ၀.၀၀၁ % |
| | လုပ်ငန်းအမျိုးအစား | - Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ဒေါ်ကြည်ကြည်တင် |
| | မြေအကျယ်အဝန်း | - ၀.၁၆၅ ဧက (၆၆၇.၇၃ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၆၀ပေ x ၁၂၀ပေ ၁ ထပ်အဆောက်အဦ တစ်လုံး(စက်ရုံ) |
| | မြေငှားရမ်းကာလ | - ၃၀ နှစ် |
| ၃။ | နှစ်စဉ်မြေ ငှားရမ်းခ | - ပထမနှစ် ကျပ် ၂၈,၈၀၀,၀၀၀<br>- ပထမနှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၄၃,၁၃၁ နှုန်း<br>- ဒုတိယနှစ် ကျပ် ၃၀,၀၀၀,၀၀၀<br>- ဒုတိယနှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၄၄,၉၂၈ နှုန်း |
| ၄။ | လုပ်ငန်းသက်တမ်း | - ၃၀ နှစ် |
| | တည်ဆောက်ရေးကာလ | - ၃ လ |
| ၅။ | စုစုပေါင်းမတည်ငွေရင်း | - အမေရိကန်ဒေါ်လာ ၁.၄၂ သန်း<br>(US$သန်း) |
| | ငွေသား | ၁.၁၀ |
| | စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၀၃ |
| | စက်နှင့်စက်ပစ္စည်း (ပြည်တွင်း) | ၀.၁၄ |
| | အဆောက်အဦပြင်ဆင်စရိတ် | ၀.၁၅ |
| | **စုစုပေါင်း** | ၁.၄၂ |
| ၆။ | ဝန်ထမ်းအင်အား(ပထမနှစ်) | - **၅၅ ဦး** |
| | ပြည်တွင်း | - ၅၄ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်း တစ်ဦး၏ လစာ ကျပ် ၁၄၀,၂၅၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၆၃၇,၅၀၀) |
| | ပြည်ပ | - ၁ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ လစာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။) |
| | ရောင်းချမည့်စနစ် | - ၁၀၀% ပြည်တွင်းရောင်း |
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဋ္ဌမနှစ် ) | - US$ ၃.၁၂၇ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဋ္ဌမနှစ် ) | - US$ ၂.၆၂၁ သန်း |
| | ကုမ္ပဏီ၏အသားတင်အမြတ် (ဆဋ္ဌမနှစ်) | - US$ ၀.၅၀၆ သန်း |
| ၈။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဋ္ဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၁၆၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | US$ ၀.၁၄၈ သန်း |

| | | |
|---|---|---|
| | အရင်းကြေကာလ | - ၄ နှစ် ၁ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | - ၁၉.၃၉ %<br>(1 US$ ဒေါ်လာလျှင် ၁၂၇၅ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။) |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (ပုံမှန်နှစ်) | - ၉,၆၀၀ kWh |
| ၁၀။ | ထုတ်လုပ်မည့်ပစ္စည်းများ (၆နှစ်မြောက်) | - |

| | ထုတ်လုပ်မှုအရေအတွက်(Ton) | ပြည်တွင်းရောင်းဈေး (US$ /Ton) |
|---|---|---|
| Super Plasticizer | ၈၈၂ | ၁,၃၀၀ |
| Plasticizer | ၇၅၆ | ၁,၁၀၀ |
| Waterproof Agent | ၁၂၆ | ၁,၃၀၀ |
| Accelerating Agent | ၁၂၆ | ၁,၃၀၀ |
| Retarding Agent | ၆၁၇ | ၁,၃၀၀ |
| Anti Foaming Agent | ၁၃ | ၁,၅၀၀ |

| | | |
|---|---|---|
| ၁၁။ | CSR | - လူမှုဘဝသာယာဝပြောရေးတာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြု မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၂။ | မီးဘေးကာကွယ်ရေး | မီးဘေးကာကွယ်ရေးစီမံချက်ကိုလည်းတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Ezcon Company Limited |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | အမေရိကန်ဒေါ်လာ ၁.၄၂ သန်း |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | - | ၃၀ နှစ် |
| အရင်းကြေကာလ | - | ၄ နှစ် ၁ လ |
| IRR | - | ၁၉.၃၉% |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၂.၁၆၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၂.၀၁၈ သန်း | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၁၆၁၃.၉၂၀ သန်း |
| ၅ | ဝင်ငွေခွန် | ကျပ် ၆၀၇.၃၆၇ သန်း | ကျပ် ၁၀၇၅.၁၇၅ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၆.၂၇၂ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်း (၄၈) ကျော်ပါကအခွန်ပေးရမည့်ဝန်ထမ်း (၁၂) ဦး |
| ၈ | CSR ၂% | | ကျပ် ၁၀၀.၁၉၇ သန်း |
| ၉ | မြေငှားရမ်းခရငွေ | | ကျပ် ၂၉၈.၈၀၀ သန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၅၄ ဦး<br>ပြည်ပ ၁ ဦး<br>ပြည်တွင်းလုပ်သား (၅၄) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ပြုစေပါသည်။<br>အလုပ်အကိုင်အခွင့်အလမ်းများပိုမိုရရှိစေပြီးဆင်းရဲနွမ်းပါးမှုလျော့ချရေးကို အထောက်အကူပြုစေနိုင်ပါသည်။ |
| | | **ကျပ် ၆၁၁.၅၄၅ သန်း** | **ကျပ် ၃၀၉၅.၅၂၉ သန်း** |
| | | ၁ : | ၅ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက- ၃/န-၁၃၁၆/၂၀၁၆(၈၇၃)က

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဇွန်လ ၃၀ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့**

**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Ezcon Co., Ltd. တည်ထောင်ကာ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော KH T&L Co., Ltd. မှ ၉၉.၉၉၉% နှင့် Mr. Kim Seokkyun မှ ၀.၀၀၁% တို့ အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Ezcon Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၀.၁၆၅ ဧက (၆၆၇.၇၃ စတုရန်းမီတာ)ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် ဒေါ်ကြည်ကြည်တင် နှင့် Ezcon Co., Ltd. တို့ချုပ်ဆိုမည့် မြေနှင့်အဆော က်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများနှင့် လုပ်ငန်းတည်နေရာပြမြေပုံများ၊ မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့် ကုမ္ပဏီ၏သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း (မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင် (ယာယီ) တို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ မြေနှင့်အဆောက်အဦ ငှားရမ်းမည့် သက်တမ်းမှာ ၃၀ နှစ်ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့်ဧရိယာ ၀.၁၆၅ ဧက (၆၆၇.၇၃ စတုရန်းမီတာ) နှင့် ယင်းမြေပေါ်ရှိ ၆၀ပေx၁၂၀ပေအကျယ် အဆောက်အဦတစ်လုံးအား တစ်လလျှင် ကျပ် ၂,၄၀၀,၀၀၀ နှုန်းဖြင့် ပထမနှစ် အတွက် ကျပ် ၂၈,၈၀၀,၀၀၀၊ ဒုတိယနှစ် အတွက်တစ်လလျှင် ကျပ် ၂,၅၀၀,၀၀၀၊ ကျန်နှစ်များအတွက် နှစ်ဖက်သဘောတူညီမှုဖြင့် ယခင်ငှားရမ်းခ၏ ၁၀% ထက်မပိုသောနှုန်းဖြင့် ငှားရမ်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး တည် ဆောက်မှုကာလမှာ (၃)လကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ US$ ၁.၄၂ သန်း ဖြစ်ပြီး ထည့်ဝင်မှုများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | US$ (သန်း) |
|---|---|
| ငွေသား | ၁.၁၀ |
| စက်နှင့်စက်ပစ္စည်း (ပြည်ပ) | ၀.၀၃ |
| စက်နှင့်စက်ပစ္စည်း (ပြည်တွင်း) | ၀.၁၄ |
| အဆောက်အဦပြင်ဆင်စရိတ် | ၀.၁၅ |
| **စုစုပေါင်း** | ၁.၄၂ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း (၅၄) ဦးနှင့် ပြည်ပမှ ဝန်ထမ်း (၁) ဦး စုစုပေါင်း (၅၅) ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၁၄၀,၂၅၀ ဖြစ်ပြီး၊ အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၆၃၇,၅၀၀ ဖြစ်ပါသည်။ ပြည်ပ တစ်ဦး၏ လစာမှာ US$ ၁,၅၀၀ ဖြစ်ပါသည်။

၇။ လုပ်ငန်းမှ ထွက်ရှိသော Concrete Admixture များကို ပြည်တွင်း၌ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်)၏ထုတ်လုပ်မှု အရေအတွက်နှင့် ရောင်းဈေးနှုန်းများမှာ-

| | ထုတ်လုပ်မှုအရေအတွက် (Ton) | ရောင်းဈေးနှုန်း (US$/Ton) |
|---|---|---|
| Super Plasticizer | ၈၈၂ | ၁,၃၀၀ |
| Plasticizer | ၇၅၆ | ၁,၁၀၀ |
| Waterproof Agent | ၁၂၆ | ၁,၃၀၀ |
| Accelerating Agent | ၁၂၆ | ၁,၃၀၀ |
| Retarding Agent | ၆၁၇ | ၁,၃၀၀ |
| Anti Foaming Agent | ၂၃ | ၁,၅၀၀ |

၈။ လုပ်ငန်းဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် ကုမ္ပဏီ၏ ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

| | | US$(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃.၁၂၇ |
| (ခ) | အသုံးစရိတ် | ၂.၆၂၁ |
| (ဂ) | အသားတင်အမြတ် | ၀.၅၀၆ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၁၆၈ သန်း၊ ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၁၄၈ သန်းရရှိ မည် ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၄ နှစ် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုး

အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၉.၃၉ % ဖြစ်ပါသည်။ ငွေလဲလှယ်နှုန်းကို အမေရိကန် ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၇၅ ကျပ် နှုန်းဖြင့် တွက် ချက်ဖော်ပြထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများမှ အောက်ပါအတိုင်း သဘောထား မှတ်ချက်ပြန်ကြားထားပါသည် -

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ၄-၂-၂၀၁၆ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၅/၂၀၁၆ ဆုံးဖြတ်ချက်အပိုဒ် ၅ အရ Ezcon Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ (က)**

(ခ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန(ယခင် ပတ်ဝန်း ကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန)** မှ အဆိုပြု လုပ်ငန်း ဆောင်ရွက် ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအတိုင်း လိုက်နာဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည် -

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်း ဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ နည်းပညာများအား အသုံးပြု ရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြုလုပ် ငန်းများ (Corporate Social Responsibility-CSR) အတွက် (၂%) အားအသုံးပြုခြင်းတို့ အပါအဝင်ကတိကဝတ်များအား လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် (သို့မဟုတ်) ထိခိုက်မှု မရှိစေရေးတို့အတွက် အဆိုပြုလွှာ တွင်ဖော်ပြပါရှိ သည့်အတိုင်းကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)ကိုရေးဆွဲပြီး အစီရင်ခံစာပြုစု တင်ပြရန်နှင့် ဝန်ကြီး ဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကိုဆောင်ရွက်ရန်။

(၃) အထက်ပါလေ့လာဆန်းစစ်မှုရလာဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်

မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှု အစီအစဉ် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ IEE Report ကိုရေးဆွဲတင်ပြထားပါသည်။** **နောက်ဆက်တွဲ(ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်သော ထုတ်ကုန်ပစ္စည်းများသည် ဆောက်လုပ်ရေးလုပ်ငန်းသုံး ပစ္စည်းများဖြစ်ရာ အရည်အသွေးသည် အရေးကြီးသော အချက်ဖြစ်၍ အလေးထား ဆောင်ရွက်ရန်လိုကြောင်း၊ ဝန်ကြီးဌာနအနေဖြင့်ကြွေထည်၊ မြေထည်လုပ်ငန်းများနှင့် နှီးနွယ်သောလုပ်ငန်းများသာဆောင်ရွက်နေခြင်းဖြစ်ရာ ကွန်ကရစ်ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကွန်ကရစ်ဖျော်ရာတွင် အသုံးပြုထုတ်လုပ်မည့် ဓါတုပစ္စည်းများ ထုတ်လုပ်ခြင်းအတွက် စိစစ်နိုင်ခြင်း မရှိပါကြောင်း နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါကကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(ဂ)**

(ဃ) **မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း** မှ ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ၊စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ၊ ရေဆိုးသန့်စင်စက်ရုံတည်ဆောက်တပ်ဆင်မှု အစီအမံများ ၊ အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါကတုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများတင်ပြမှသာလျှင် ကော်မရှင်မှ ခွင့်ပြုသင့်ပါကြောင်း၊ ဓါတုပစ္စည်း အသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့် ကုန်ကြမ်းသယ်ယူခြင်းမှ ကုန်ချောထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးတွင် မြန်မာနိုင်ငံဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ(Prevention of Hazard from Chemical and Related Substances Law) အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးအား ထုတ်လုပ်သူမှတာဝန်သိ စောင့်ရှောက်မှု

ကောင်စီ (Myanmar Responsible Care Council) နှင့် ပူးပေါင်း၍ Responsible Care Activities များဆောင်ရွက်ရန်လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မှုအတွက် Environmental Impact Assessment (EIA) ကို စဉ်ဆက်မပြတ် အကောင်အထည်ဖော် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားလာပါသည်။ ၎င်းသဘောထားမှတ်ချက်နှင့်အညီ ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအမံများ ၊ လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းရေးအစီအမံများ၊ စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအမံများ၊ ရေဆိုးသန့် စင်စက်ရုံ တည်ဆောက်မည့် အစီအမံများ၊ အရေးပေါ် အခြေအနေ နှင့်ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများတို့ဖြင့်တင်ပြထားပြီး ထုတ်လုပ်မှုဖြစ်စဉ်တစ်လျှောက်လုံးအားထုတ်လုပ်သူမှ တာဝန်ယူဆောင်ရွက်ပေးမည်ဖြစ်ကြောင်း စသည်တို့ပါဝင်သည့် IEE Reportကိုရေးဆွဲတင်ပြထားပါသည်။ နောက်ဆက်တွဲ(ဃ)

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် KH T&L Company Limited သည် ကိုရီးယားသမ္မတနိုင်ငံရှိ Shinhan Bank တွင် ၁၉-၁၀-၂၀၁၅ ရက်စွဲဖြင့် US$ ၇၇,၇၂၈.၁၃ ရှိကြောင်း နှင့် ကိုရီးယားသမ္မတနိုင်ငံတွင် ၁၃၀-၈၆-၉၀၃၀၂ (၂၈-၂-၂၀၁၄) ဖြင့် မှတ်ပုံတင်ထားကြောင်း တင်ပြထားပါသည်။

၁၂။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** အရေးပေါ် မီးဘေးအန္တရာယ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးပြီး ဝန်ထမ်းများကိုလည်း စည်းကမ်းအတိုင်း တိကျစွာလိုက်နာ ဆောင်ရွက်ရန်လည်း စီမံထားပါကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှု အနေဖြင့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိမည်ဖြစ်ကြောင်း၊ စက်ရုံအဆောက်အဦများအား မီးလောင်မှုမှကာကွယ်ရန် ရေပုံး၊မီးကပ်၊သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိပါကြောင်း၊ စက်ရုံရှိ နံရံများတွင်လည်း မီးသတ်ဘူးများ ချိတ်ဆွဲထားမည် ဖြစ်ပါကြောင်း၊ မီးသတ်ဦးစီးဌာနမှချမှတ်ထားသော မီးဘေးအန္တရာယ်အတွက် စည်းမျဉ်းစည်းကမ်းချက်များ၊ စက်ရုံအနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားခြင်း လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ Ezcon Co., Ltd. မှ ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင် ရာ ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းအစီအစဉ် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး စသည့်ကိစ္စရပ်များတွင်သုံးစွဲနိုင်ရန်အတွက်နှစ်စဉ်အသားတင် အမြတ်ငွေ၏ ၂ % ကို Corporate Social Responsibility အဖြစ် အသုံးပြုမည်ဖြစ် ကြောင်းတင်ပြထားပါသည်။ ထို့အပြင် ဝန်ထမ်း သက်သာ ချောင်ချိရေး အစီအစဉ်

နှင့် တစ်နှစ်လျှင် ဝင်ငွေကျပ်သိန်း (၄၈) နှင့် အထက်ရှိသော ဝန်ထမ်းများအတွက် ဝင်ငွေခွန်ပေးဆောင်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၂၆/၂၀၁၆ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများပြင်ဆင်သတ်မှတ်ခြင်းတွင်ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတို့တွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစားဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၇။ ပုဂ္ဂလိကမြေတွင် ငှားရမ်း ဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စု အစိုးရအဖွဲ့၏ ၈/၂၀၁၆ (၂၅-၂-၂၀၁၆) မှ ခွင့်ပြုပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Ezcon Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၁၊ စက်မှုဇုန်၊ ဒဂုံမြို့သစ် (တောင်ပိုင်း) မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာစုစုပေါင်း ၀.၁၆၅ ဧက(၆၆၇.၇၃ စတုရန်းမီတာ) ရှိ မြေနှင့်အဆောက်အဦအားငှားရမ်း၍ Concrete Admixture များထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘော တူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | Ezcon Co., Ltd. | KH T&L Co., Ltd.<br>Represented By | 19,Seokcheon-ro 170 beon-gil, Wonmi-gu, Bucheon-si, Gyeong gi-do. |
| | | (1) Mr. Kim Seokkyun<br>Managing Director<br>Korean<br>P.P No. IC1254206 | Jung-dong, Wonmi-gu,Bucheon-si, Gyeonggi-do, Korea. |
| | | (2) Mr. Hong Ki-Sun<br>Director<br>Korean<br>P.P No. M22868633 | Naengieong-gil 48 becon-gil, Seonwon-myeon, Ganghwa-gyn, Incheon, Korea |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၅၀၀၀၇၅၂

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - -

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ရာထူး - ဒေါ်အေးသီတာ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Concrete Admixture များထုတ်လုပ်ရောင်း ချခြင်း လုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင် သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -

နောက်ဆက်တွဲ "က"

EZCON

No.435,Pathein Street,23 Quarter, Industrial Zone(1), South Dagon Town Ship, Yangon, Myanmar
TEL : 01 –2348519 / 09264571717

M-823
17/5

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏
အမှတ်(၁) ၊သစ္စာလမ်းမကြီး၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့။
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

Ezcon Company Limited. No:---------- Date:----------

ရက်စွဲ။ ။ ၂၀၁၆ခုနှစ် ၊ မေလ၊ (၁၆) ရက်

အကြောင်းအရာ။ ။ EZCON CO.,LTD ၏ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများ အသင်း၏ သဘောထားမှတ်ချက်များအား လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်းတင်ပြခြင်း

ကျွန်တော်များကုမ္ပဏီသည် ဓာတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့်

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ

Examination

ပတ်ဝန်းကျင် ထိန်းသိမ်းရေးအတွက် အစီရင်ခံစာ ( Initial Environmental Exuminution IEE Report) တင်ပြပြီး ၎င်းအစီရင်ခံစာအတိုင်း ပတ်ဝန်းကျင်ထိခိုက်မှု မရှိစေရန် အကောင်အထည် ဖော်ဆောင်ရွက်ရန် ပြင်ဆင်ထားပါသည်။
ထို့အပြင် ထိခိုက်မှုများ သက်သာလျော့နည်းစေရန်အတွက်လည်း 3R စနစ်ကို အခြေခံခြင်းများ၊ ရေအိမ်များမှ ထွက်ရှိသည့် အညစ်အကြေးများကိုလည်း Septic Tank စနစ်များ ထားရှိအသုံးပြုပါသည်။
စိမ်ကိန်းပုံမှန်လုပ်ငန်းများ လုပ်ဆောင်ရာတွင် အသုံးပြုမည့် ကုန်ကြမ်းကုန်ချောများတွင် Chemical များ အဓိကပါဝင်သောကြောင့် ထုတ်လုပ်မှုနည်းစနစ်များအတိုင်း မလိုက်နာဘဲ ဖိတ်စဉ်မှုများကို အလွယ်တကူ စွန့်ပစ်မည်ဆိုပါက ပတ်ဝန်းကျင်ကို ညစ်ညမ်းမှုဖြစ် စေနိုင်ပြီး ထိခိုက်နိုင်ပါသည်။

သို့ဖြစ်ပါ၍ထုတ်လုပ်မှု လမ်းစဉ်ကို တိကျစွာ လိုက်နာရန်လိုသည့်အပြင် မဖြစ်မနေ ဖိတ်စဉ်မှုများနှင့် အခြားသောစွန့်ပစ်အမှိုက်များ ကို Reduce , Reuse & Recycle စနစ်များကို အသုံးပြုခြင်းဖြင့် ပတ်ဝန်းကျင် အပေါ် ဆိုးကျိုးများ သက်ရောက်မှုအပေါ် လျော့ချ ပေးရာရောက်မည်ဖြစ်ပါသည်။

၁။ သတ်မှတ်သည့် အရေအသွေးနှင့် ပမာဏရရှိစေရန် တိကျစွာ လုပ်ကိုင်ခြင်းဖြင့် ပစ္စည်းများ လေလွင့်မှုမရှိဘဲ စွန့်ပစ်အမှိုက်များ လျော့ကျမည်ဖြစ်ပါသည်။ (စက်ကိုင်တွယ် ၊ ချိန်တွယ်မှုများ ကျွမ်းကျင်ရန်အတွက် အရည်အသွေးမြင့် သင်တန်းများ ပြုလုပ်ပေးခြင်း။)
၂။ ပြန်လည်၍ အသုံးပြုနိုင်သည့် ပစ္စည်းများကို ပြန်လည် အသုံးပြုခြင်းဖြင့်လည်း စွန့်ပစ်အမှိုက်များကို လျော့ချပြီး ပတ်ဝန်းကျင် ထိခိုက်မှုကို သက်သာစေမည်ဖြစ်ပါသည်။
၃။ ထုတ်ပိုးမှုများတွင် အသုံးပြုသည့် ပစ္စည်းများကို ကုန်ချောဖြစ်စေရန် ပြုလုပ်သောနည်း သို့မဟုတ် အခြားသော ထုတ်ကုန်တမျိုးထုတ်လုပ်သောနည်းများကို အသုံးပြုခြင်းဖြင့် စွန့်ပစ်အမှိုက်များကို လျော့နည်းစေပြီး ပတ်ဝန်းကျင် ထိခိုက်မှုကို သက်သာစေမည် ဖြစ်ပါသည်။

အထက်ပါအတိုင်း ပြုလုပ်ပြီး မဖြစ်မနေ ကျန်ရှိသော အမှိုက်များကို မြို့တော်စည်ပင်သာယာရေးသို့ ဆက်သွယ်ပြီး စနစ်တကျ စွန့်ပစ်ခြင်းဖြင့်လည်း ပတ်ဝန်းကျင် ထိခိုက်မှုများကို လျော့ချစေနိုင်မည် ဖြစ်ပါသည်။

လုပ်သားများအသုံးပြုရန် ရေချိုးခန်း၊ ရေအိမ်များကိုလည်း စနစ်တကျ သန့်ရှင်းစွာ တပ်ဆင်ထားပါသည်။

(ခ) လုပ်ငန်းခွင် အန္တရာယ် ကင်းရှင်းရေး အစီအမံများ

EZCON Co., Ltd ၏ Concrete Admixture အမျိုးမျိုးထုတ်လုပ်ရေး လုပ်ငန်းစီမံကိန်းတွင် အောက်ပါ ထုတ်ကုန် အမျိုးအစား များနှင့် လုပ်ငန်းစဉ်များပါဝင်မည်ဖြစ်ပါသည်။

1. Super Plasticizer
2. Plasticizer
3. Water Proof Agent
4. Accelerating Agent
5. Retarding Agent
6. Anti Foaming Agent

စသည်တို့ ဖြစ်ပါသည်။

စက်ရုံ၏ အဓိကလုပ်ငန်းများမှာ အောက်ပါတို့ဖြစ်ပါသည်။




ကျွန်တော်တို့ Concrete admixture သည် မီးလောင်စေသော အဆိပ်သင့်စေသော Chemical အမျိုးအစား မဟုတ်ဘဲ လုပ်သားအတွက် အန္တရာယ်ရှိမှု နည်းပါးခြင်းကြောင့် Hazard Statement နှင့် ထိခိုက်မှုများ မဖြစ်ပေါ်စေရန် ကြိုတင်ကာကွယ်ကိုင်တွယ်ခြင်းနှင့် မတော်တဆ ထိတွေ့မှုများ ဖြစ်ပေါ်ပါက အရေးပေါ်ရှေးဦးပြုစုနည်းများ ပါဝင်သော Material Saftly Data Shet တို့ကို တင်ပြပြီး ဖြစ်ပါသည်။Concrete admixer ထုတ်လုပ်သောကြောင့် လုပ်ငန်းခွင် ဘေးအန္တရာယ် ကင်းရှင်းစေရန် ဝန်ထမ်းများအတွက် safety နှင့်ပတ်သတ်သော အကာအကွယ်များဖြစ်သော safety ဦးထုပ်၊ mask, safety shoe ,လက်အိတ် စသဖြင့် လုပ်သားအတွက် စီမံပေးထားပါသည်။

စာမ် “၈”

Ezcon Company Limited.
No:-----------
Date:-----------

( ဂ )　စွန့်ပစ်ပစ္စည်း စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ

Contrete Admixture ၏ ကုန်ကြမ်းများကို သိုလှောင်ခြင်း၊ ထုတ်ယူသုံးစွဲခြင်း လုပ်ငန်းအဆင့်ဆင့်တို့တွင် လိုအပ်သည့် ပမာဏအတိုင်းသာ အသုံးပြုသွားမည် ဖြစ်ပြီး အလေအလွင့်များ မရှိစေရန်လည်း ထိန်းသိမ်းစီမံထုတ်လုပ်သွားမည် ဖြစ်သဖြင့် စွန့်ပစ်အနေဖြင့် သော်လည်းကောင်း ၊ အနံ့အနေဖြင့်သော်လည်းကောင်း ထွက်ရှိလာမည် မဟုတ်ပါသဖြင့် သဘာဂပတ်ဂန်းကျင်ကို ထိခိုက်မည် မဟုတ်ပါ။ ဂန်ထမ်းများ၏ ရေအိမ် ၊ ရေချိုးခန်းများမှ စွန့်ပစ်ရေဆိုးများထွက်ရှိမည်ကို ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်ပြီး အပြည်ပြည်ဆိုင်ရာ စံချိန် စံညွှန်းများနှင့် ကိုက်ညီအောင်ဆောင်ရွက်မည်ဖြစ်ပါသည်။

စက်ရုံ၏ ထုတ်လုပ်မှုလမ်းစဉ်အရ စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များမထွက်ရှိကြောင်း Process Flow ဆိုင်ရာ မှတ်တမ်းများအရ သိရှိနိုင်ပါသည်။ သို့ရာတွင် ဓါတုအခြေခံပစ္စည်းများ (Polyester Fabric, Nylon) စသည်တို့အား သုံးစွဲရန် လိုအပ်မည် ဖြစ်ပါသည်။ အဆိုပါ ပစ္စည်းများကို သိုလှောင်ခြင်း၊ ထုတ်ယူသုံးစွဲခြင်း လုပ်ငန်းအဆင့်ဆင့်တို့တွင် လိုအပ်သည့် ပမာဏ အတိုင်းသာ အသုံးပြုသွားမည် ဖြစ်သကဲ့သို့ အလေအလွင့် များမရှိစေရန်လည်း ထိန်းသိမ်းစီမံ ထုတ်လုပ်သွားမည် ဖြစ်သဖြင့် စွန့်ပစ်အနေဖြင့်သော်လည်းကောင်း ၊ အနံ့အနေဖြင့်သော်လည်းကောင်း ထွက်ရှိလာမည် မဟုတ်ပါသဖြင့် သဘာဝပတ်ဝန်းကျင်ကို ထိခိုက်မည်မဟုတ်ပါ။

ထုတ်လုပ်မှုတွင် အဓိက အသုံးပြုမည့် ကုန်ကြမ်းများဖြစ်သော

1. Polycarbonylic copolumer solution (PEMA_300ES or PERMA_300EM or PR 100 or PEMA_AE)
2. Calcium Lingnosulfonate Acid (PEMA SG)
3. Sodium Gluconate (PEMA_SG)
4. Polyxyalkylene alky ether solution (PEMA_PAF or ROADCON_AWA)
5. Aluminium compound solution (MS_1000 or MS_3000)
6. Calcium Lingnosulfonate (K& P Waterproof or Waterproof)

စသည်တို့ကို နိုင်ငံခြားမှ တင်သွင်းမည်ဖြစ်၍ ၎င်းတို့ကို ထုတ်လုပ်ရာတွင် ဖြစ်ပေါ်မည့် ပတ်ဝန်းကျင် ထိခိုက်မှုများကို ရှောင်ရှားနိုင် ပြီးဖြစ်သော်လည်း အဆိုပါ ကုန်ကြမ်းများသည် ဓာတုပစ္စည်းများဖြစ်သဖြင့် လူတို့၏ အရေပြား၊ မျက်စိ၊ လေရှူလမ်းကြောင်းတို့နှင့် ထိတွေ့ မှု အချိန်ကြာမြင့်ခြင်းတို့ကြောင့် ကျန်းမာရေးထိခိုက်နိုင်ပါသဖြင့် အဆိုပါ ကုန်ကြမ်းများကို အလေအလွင့်မရှိကောင်းစွာ ကိုင်တွယ်စွန့်ပစ်ရမည် ဖြစ်ပါသည်။ 3R (Reduce, Reuse, Recycle) စနစ်ကို အသုံးပြုသွားမည် ဖြစ်ပါသည်။

အထက်ပါဖော်ပြပါ ကုန်ကြမ်းများသည် ယေဘုယျအားဖြင့် ၎င်းတို့နှင့် ထိတွေ့ရသော လုပ်သားများအတွက် အန္တရာယ်ရှိမှု နည်းပါးကြောင်း Hazard Statement နှင့် ထိခိုက်မှုများ မဖြစ်ပေါ်စေရန် ကြိုတင်ကာကွယ်ကိုင်တွယ်ခြင်းနှင့် မတော်တဆထိတွေ့မှုများဖြစ်ပေါ်ပါက အရေးပေါ် ရှေးဦးပြုစုနည်းများ ပါဝင်သော Material　Safety Data Sheet တို့ကို ပူးတွဲဖော်ပြထားပါသည်။
အဆိုပါ ဖော်ပြချက်ရ ကြီးမားသော ရောဂါ မဖြစ်နိုင်သော်လည်း အရေပြားနှင့် မျက်စိအတွက် အထူးသတိထားရမည် ဖြစ်ပါသဖြင့် ထိတွေ့ကိုင်တွယ်နေရသော အလုပ်သမားဝန်ထမ်းများအတွက် လိုအပ်သော သင်တန်းပေးခြင်းကဲ့သို့ အသိပညာပေးသင်တန်းများကို မပြတ်လုပ်ဆောင်သကဲ့သို့ လေ့ကျင့်မှုနှင့် စည်းကမ်းများ လိုက်နာမှုများကိုလည်း အစဉ်မပြတ် စောင့်ကြပ်ကြည့်ရှုခြင်းအားဖြင့် ပတ်ဝန်းကျင် ထိခိုက်မှုများကို လျော့ချနိုင်မည် ဖြစ်ပါသည်။ လုပ်သားများအတွက် လုပ်ငန်းခွင် ထိခိုက်မှုမရှိစေရန်လည်း ဝတ်စုံနှင့် နာစည်းများကို ဝတ်ဆင်လုပ်ကိုင်စေမည် ဖြစ်ပါသည်။

စက်ရုံ၏ လုပ်ငန်းများအမှန်တကယ် လည်ပတ်သည့်အခါတွင် ဝန်ထမ်းများ၏ ရေအိမ် ၊ ရေချိုးခန်းများမှ စွန့်ပစ်ရေဆိုးများ ထွက်ရှိမည်ကို အပြည်ပြည်ဆိုင်ရာ စံချိန်စံညွှန်းများနှင့် ကိုက်ညီသည့် ရေဆိုးများ သန့်စင်သည့် စနစ်များပါရှိသောကြောင့် ပတ်ဝန်းကျင် ထိခိုက်ရန် အကြောင်းမရှိပါ။

ဖာဂ် "ဃ"

Ezcon Company Limited.
No:
Date:

( ဃ) ရေဆိုးသန့်စင်စက်ရုံတည်ဆောက်တင်ဆက်မှု အစီအမံများ

စက်ရုံတွင်ထွက်ရှိသော ရေချိုးခန်း ၊ ရေအိမ်များမှ ထွက်ရှိသော အညစ်အကြေးများ၊ မီး ဖို ဆောင်များမှ ထွက်ရှိသော အညစ်အကြေးများ၊ ကုန်ကြမ်းများ ဖိတ်စင်မှုမှ ထွက်ရှိသော အညစ် အကြေးများကို ရေဆိုးရေညစ်များ ပြုပြင်သော နည်းစနစ် Septic Tunk With Chlorination Well စနစ်ကို တည်ဆောက်အသုံးပြု မည်ဖြစ်ပါသည်။ Treatment လုပ်ထားသော စွန့်ပစ်ရေကို အဆောက်အဦး ပတ်လည်တွင် တည်ဆောက်ထားသည်။ Inter Druin များမှ တဆင့် အများ ပိုင် ရေမြောင်းသို့ စွန့်ပစ်မည်ဖြစ်ပါသည်။ လိုအပ်ပါက ရေမြောင်းကွန်ရက်အား လိုအပ်သလို တိုးချဲ့ တည်ဆောက်သွားမည် ဖြစ်ပါသည်။

စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များဆိုင်ရာ လေ့လာဆန်းစစ်မှုနှင့် စီမံထားရှိမှု

စက်ရုံ၏ ပုံမှန်လည်ပတ်မှု လမ်းစဉ်အရ စွန့်ပစ်ပစ္စည်းနှင့် ရေဆိုးရေညစ်များသည် အောက်ပါအတိုင်းထွက်ရှိနိုင်ကြောင်း Process Flow ဆိုင်ရာ မှတ်တမ်းများအရ သိရှိနိုင်ပါသည်။

(က) ရေချိုးခန်း၊ ရေအိမ်များမှ ထွက်ရှိသော အညစ်အကြေးများ
(ခ ) မီးဖိုဆောင်များမှ ထွက်ရှိသော အညစ်အကြေးများ
(ဂ ) ကုန်ကြမ်းများဖိတ်စဉ်မှုမှ ထွက်ရှိသော အညစ်အကြေးများ

အဆိုပါ ရေဆိုး ရေညစ်များကို ပြုပြင်သောနည်းစနစ်များကို အောက်ပါအတိုင်း

| | | |
|---|---|---|
| 1. | Waste from the Industry | Concrete Waste Tank System |
| 2. | Waste from Toilet | Coventional Septic Tank with bleach dosing chamber |
| 3. | Waste from Kitchen | Remove oil & grease through Grease Trap before drainage |
| 4. | Laundry waste | Natural soak pit according to WHO recommendation |


FLEXIBLE - IN & OUTLET


PALL RING MEDIA








ယခုစီမံကိန်းအတွက် ရေဆိုးသန့်စင်စနစ်နှင့် ပတ်သတ်သည့် အချက်များကို အောက်ပါအတိုင်း ဖော်ပြအပ်ပါသည်။

| | |
|---|---|
| Septic Tank | |
| Treatment Method: | Excellent Performance with massive reduction of BOD |
| (BOD) Influent | 70% ~80% reduction |

စီမံကိန်းတစ်ခုလုံးအနေဖြင့် အမှိုက်များကို အလွယ်တကူ သိမ်းဆည်းနိုင်သကဲ့သို့ ရေချိုးခန်း၊ အိမ်သာများမှ ထွက်ရှိသော ရေဆိုး ရေညစ်များကို စနစ်တကျ စုဆောင်းပြီးသိုလှောင်ပြီး သန့်စင်ပြီးမှသာ တစ်ခုလုံး၏ ရေဆိုးထုတ်စနစ်သို့ တိုက်ရိုက် သို့မဟုတ် သီးခြားထပ်မံ ဌားရမ်း အသုံးပြုမည့် ဝန်ဆောင်မှု လုပ်ငန်းကုမ္ပဏီမှ တဆင့် စွန့်ထုတ်ရန်ရှိပါသည်။

Ezcon Company Limited.
No:----------
Date:----------

(င) အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများ

အလုပ်ချိန် စက်ရုံအတွင်း မီးလောင်ခဲ့လျှင် အောက်ပါအတိုင်း ဆောင်ရွက်ရမည်။

၁။ စက်ရုံအတွင်းရှိ ပစ္စည်းများ၊ အမှိုက်များ (သို့မဟုတ်) ဌာနအတွင်း၌ မီးလောင်ခဲ့သော် ပထမဆုံးတွေ့ရှိသူမှ မီး-မီး-မီး ဟု အော်၍ နီးစပ်ရာ သံချောင်း (သို့မဟုတ်) ခေါက်တိုင် (သို့မဟုတ်) အသံမည်စေနိုင်သည့် အရာတစ်ခုခုကို အခြားသူများရောက်ရှိလာသည်အထိ အဆက်မပြတ် တီးခေါက်အချက်ပေးရမည်။
၂။ မီး-မီး-မီး ဟု အော်သံကိုလည်းကောင်း၊ အဆက်မပြတ် သံချောင်းခေါက်သံကိုလည်းကောင်း ကြားရသူသည် ဌာနတာဝန်ခံသို့ ချက်ချင်းအကြောင်းကြားရမည်။
၃။ စက်ရုံဝင်းအတွင်း မီးလောင်လျှင် ဦးစားပေးဆောင်ရွက်ရမည့် ပစ္စည်းများကို အမြန်ဆုံး ပြောင်းရွှေ့ပြီး ပတ်ဝန်းကျင်သို့ မီးမကူးစက်ရေးအတွက် လိုအပ်သလို အဆောက်အဦးဖျက်ခြင်း ပြုလုပ်ရမည်။
၄။ မီးလောင်သည်ကို သိလျှင်သိခြင်း မိမိဌာနတွင် အစောင့်ထားခဲ့ပြီး ကျန်လုပ်သားများအားလုံး မီးလောင်ရာနေရာသို့ မိမိဌာနရှိ ရေပုံးများ၊ မီးချိတ်များ၊ မီးကပ်များ ယူဆောင်၍ အမြန်ဆုံး သွားရောက်ငြိမ်းသတ်ရမည်။
၅။ အနီးဆုံးစက်ရုံ၊ မီးသတ်တပ်ဖွဲ့များသို့ မည်သည့်နေရာတွင် မီးလောင်ကြောင်းကို သတင်းပို့ရမည်။
၆။ ပြင်ပမီးသတ်ကားများ ရောက်ရှိလာပါက မီးလောင်သည့် နေရာသို့ အမြန်ဆုံး ရောက်ရှိနိုင်ရေးအတွက် လုံခြုံရေး ဝန်ထမ်းများ လိုက်ပါလမ်းညွှန်ပေးနိုင်ရန် စီစဉ်ထားရမည်။
၇။ မီးလောင်မှု ဖြစ်ပွါးရာ နယ်မြေအတွင်း လျှပ်စစ်ကြိုးများဖြတ်တောက်ရန် လျှပ်စစ်နှင့် ပြင်ဆင်ထိန်းသိမ်းရေးဌာနမှ အဖွဲ့သည် မီးသတ်ကားနှင့်အတူ အမြန်ဆုံး သွားရောက်ရမည်။

အလုပ်ချိန်ပြင်ပတွင် မီးလောင်ခဲ့လျှင် စီစဉ်ဆောင်ရွက်ထားရှိမှုများ

အလုပ်ချိန်ပြင်ပတွင် စက်ရုံအတွင်း မီးလောင်ခဲ့လျှင် အောက်ပါအတိုင်း ဆောင်ရွက်ရမည်။
၁။ ရုံးပိတ်ရက်များ၊ ညအချိန်များတွင် မီးလောင်သည်ကို တာဝန်မှူး (သို့မဟုတ်) တစ်ဦးဦးက သိရှိတွေ့မြင်သည်နှင့် တပြိုင်နက် မီး-မီး-မီး ဟုအော်၍ နီးစပ်ရာ သံချောင်း (သို့မဟုတ်) ခေါက်တိုင် (သို့မဟုတ်) အသံမည်စေနိုင်သည့် အရာတစ်ခုခုကို အခြားသူများရောက်ရှိလာသည်အထိ အဆက်မပြတ် တီးခေါက်အချက်ပေးရမည်။
၂။ မိမိကိုယ်တိုင်သိရှိခြင်း သို့မဟုတ် အချက်ပေးသံကြားသည်နှင့် တပြိုင်နက် တာဝန်မှူးသည် စက်ရုံစက်ရုံမှူး ၊ ဒုစက်ရုံမှူးနှင့် တာဝန်ရှိသူများကို ချက်ခြင်းတယ်လီဖုန်းဖြင့်ဖြစ်စေ၊ ဆက်သားဖြင့်ဖြစ်စေ အကြောင်းကြားရမည်။
၃။ မိမိစက်ရုံနှင့် အနီးဆုံးရှိမီးသတ်ဌာနသို့ မီးသတ်ကားအကူအညီရရှိရေးအတွက် ဆက်သွယ်သတင်းပို့ရမည်။
၄။ မီးလောင်သည့်နေရာမှ အခြားအဆောက်အအုံများသို့ မီးမကူးစက်ရေးနှင့် အရေးကြီးပစ္စည်းများပြောင်းရွှေ့ရေး၊ စနစ်တကျ မီးငြိမ်းသတ်ရေးတို့ကို တာဝန်ရှိသူမှ ကြပ်မတ် ကွပ်ကဲရမည်။
၅။ ပြင်ပမှ မီးသတ်ကားများ၊ ရေကားများရောက်ရှိလာပါက မီးလောင်သည့်နေရာသို့ အမြန်ဆုံး ရောက်ရှိရေးအတွက် လုံခြုံရေး ဝန်ထမ်းများ ထည့်ပေးပြီး လမ်းပြစေရမည်။
၆။မီးငြိမ်းသတ်ပြီးလျှင် မီးလောင်နယ်မြေအတွင်း ပစ္စည်းအသေးစိတ် မစစ်ဆေးနိုင်မီ (နေ့၊ည) လုံလောက်သော အစောင့်အရှောက်များ ချထားရမည်။

အုပ်ချုပ်မှုနှင့် ထောက်ပံ့ပို့ဆောင်ရေး

၁။ မီးသတ်ယာဉ်၊ ရေကား၊ ပစ္စည်းများသယ်ယူရန် ယာဉ်များနှောင့်နှေးကြန့်ကြာမှု မရှိစေဘဲ စေလွှတ်နိုင်ရန် စီစဉ်ပေးရမည်။
၂။ မီးလောင်စဉ် ပစ္စည်းများပျောက်ဆုံးမှုမရှိစေရေး၊ ရုံးရင်းဆန်ခတ်မှုနှင့် လုယက်မှုများ မဖြစ်ပွားစေရန် လုံခြုံရေးဌာနမှ တာဝန်ယူ ဆောင်ရွက်ရမည်။
၃။ မီးလောင်ရာတွင် ဒဏ်ရာရသူများအား နီးစပ်ရာ ဆေးခန်း၊ ဆေးရုံများသို့ ပို့ဆောင်ကုသသွားရမည်။
၄။ မီးလောင်မှုဖြစ်ပွါးပါက တယ်လီဖုန်းဖြင့် ဆက်သွယ်ပြီး ရုံးချုပ်သို့ အချိန်နှင့် တပြေးညီ သတင်းပို့ရမည်။

Ezcon Company Limited.
No:----------
Date:----------

ကွပ်ကဲမှုနှင့် ဆက်သွယ်ရေး

မီးလောင်မှုဖြစ်ပွားသည့်နေရာကို မီးငြိမ်းသတ်ရေးအတွက် စက်ရုံမှူး၊ ဒုစက်ရုံမှူးနှင့် ဌာနမှူးအပြင် တာဝန်မှူးတို့မှ အနီးကပ် ကွက်ကဲသွားရမည်။
ဆက်သွယ်ရေးအဖြစ် မီးလောင်လျှင် အချက်ပေးသံချောင်း၊ ဆက်သားနည်းအပြင် တယ်လီဖုန်းဖြင့် ဆက်သွယ် အကြောင်း ကြားရမည်။

Kim SK

လေးစားစွာဖြင့်

Mr. Kim Seokkyun
Managing Director
Ezcon Company Limited.

Mr.Kim Seok Kyun
MANAGING DIRECTOR
EZCON COMPANY LIMITED

တိုင်းဒေသကြီးအစိုးရအဖွဲ့
စာအမှတ် ၆၁၉
ရက်စွဲ ၁၁/၂/၁၆
ရန်ကုန်တိုင်းဒေသကြီး

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / စိုက်မွေး
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီ လ ၁၀ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

၁၅/၂/၁၆

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၁. ၁. ၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက-၃/ န-၁၃၆၁/၂၀၁၆(၉၀)

၁။ ကိုရီးယားသမ္မတနိုင်ငံတွင် ဖွဲ့စည်းထားသော KH T&L Co., Ltd. မှ ၉၉. ၉၉၉% နှင့် Mr. Kim Seokkyun မှ ၀. ၀၀၁% တို့အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Ezcon Co., Ltd. တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၀. ၁၆၅ ဧက (၆၆၇. ၇၃ စတုရန်းမီတာ)ရှိ မြေအားငှားရမ်း၍ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား(၅၅)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် မြေကွက်အမှတ်-၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံ စက်မှုဇုန်၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေဧရိယာ စုစုပေါင်း ၀. ၁၆၅ ဧက (၆၆၇. ၇၃ စတုရန်းမီတာ)အား တစ်နှစ်လျှင်ငွေကျပ် (၂၈၈)သိန်း၊ 22588.2 US$ နှုန်း (1sqft =3.067 US$, 1sqm =33 US$)နှုန်းဖြင့် ကနဦး(၃၀)နှစ်နှင့် နှစ်တိုး(၅)နှစ် (၆)ကြိမ် ငှားရမ်းဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

D/2016/Cabinet/5.,(3)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၄. ၂. ၂၀၁၆)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၅/၂၀၁၆)၊ ဆုံးဖြတ်ချက်အပိုဒ် (၅)အရ Ezcon Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလုံခြုံရေးနှင့်နယ်စပ်ရေးရာဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Ezcon Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

D/2016/Cabinet/5.,(4)

M. 333
၃၃/၉

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/MIC(OSS)/ECD/ဝ၁(၄၄/၁၉)
ရက် စွဲ၊၂ဝ၁၆ခုနှစ် ဖေဖော်ဝါရီလ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Ezcon Co.,Ltd မှ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁-၁-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ န-၁၃၆၁/ ၂ဝ၁၆(၈၁)

၁။ ကိုးရီးယားသမ္မတနိုင်ငံတွင်ဖွဲ့စည်းထားသော KHT & Co.,Ltd မှ ၉၉.၉၉%နှင့် Mr.Kim Seokkyum မှ ဝ.ဝဝ၁%တို့အသီးသီးထည့်ဝင်၍ မြန်မာနိုင်ငံတွင် Ezcon Co.,Ltd တည်ထောင်ကာ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြေကွက်အမှတ်- ၄၃၅၊ မြေတိုင်းရပ်ကွက်အမှတ်-၂၃၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိမြေဧရိယာစုစုပေါင်း၀.၁၆၅ဧက(၆၆၇.၇၃စတုရန်းမီတာ)ရှိမြေအားငှားရမ်း၍ Concrete Admixture များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ(၃၀)နှစ်ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ(၃)လဖြစ်ကြောင်း၊ မီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကိုထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသောအသားတင်အမြတ်ငွေမှ(၂%)အားလူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ(Corporate Social Responsibility - CSR)လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းရေးနှင့်ပတ်သက်၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း ( Initial Environmental Examination –IEE ) အားဆောင်ရွက်ပြီး အစီရင်ခံစာတင်ပြသွားမည်ဖြစ်

ကြောင်းဖော်ပြပါရှိပါသည်။

၃။ Ezcon Co.,Ltd မှ Concrete Admixture အစရှိသောဆောက်လုပ်ရေးလုပ်ငန်းသုံး ဓာတုဗေဒပစ္စည်းများအားထုတ်လုပ်ခြင်းကြောင့် Lingnosulphonate, Sodium gluconate, Polycarboxylic copolymer အစရှိသောဓာတုဗေဒပစ္စည်းများအား စနစ်တကျကိုင်တွယ်ခြင်း၊ အသုံးပြုခြင်း၊ စီမံခန့်ခွဲခြင်းများဆောင်ရွက်ရန်လိုအပ်ပြီး၊ စနစ်တကျစီမံခန့်ခွဲမှု မပြုနိုင်ပါက လေထုညစ်ညမ်းခြင်း၊ ရေထုညစ်ညမ်းခြင်း၊ မြေဆီလွှာညစ်ညမ်းခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများသာမက လူတို့၏ကျန်းမာရေးဆိုင်ရာ ထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Ezcon Co.,Ltd မှ Concrete Admixture များထုတ်လုပ်ရောင်းချခြင်း အားဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းစနစ်များ၊ နည်းပညာများအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာအကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility – CSR )အတွက်(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို ရှောင်ရှားနိုင်ရန်အတွက်(သို့မဟုတ်)ထိခိုက်မှုမရှိစေရေးတို့အတွက် အဆိုပြုလွှာတွင်ဖော်ပြပါရှိပါသည့်အတိုင်း ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination –IEE ) ကိုရေးဆွဲပြီးအစီရင်ခံစာပြုစုတင်ပြရန်နှင့်ဝန်ကြီးဌာနမှလိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA )ကို ဆောင်ရွက်ရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးဆိုင်ရာထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ အစိုင်အခဲစီမံခန့်ခွဲမှုအစီအစဉ် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Manangement Plan - EMP )ကို ရေးဆွဲတင်ပြ၍ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင် ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ/ နည်းဥပဒေ/ လုပ်ထုံးလုပ်နည်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

M.208
3/2

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၃၈၂၁)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁. ၁.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃ / န-၁၃၆၁ / ၂၀၁၆ (၉၁)

၁။ Ezcon Co.,Ltd. မှ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ တောင်ဒဂုံစက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်(၂၃)၊ မြေကွက်အမှတ် (၄၃၅)တွင် Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောတင်ပြချက်တွင် ကုန်ကြမ်းဓါတုပစ္စည်းများအား ပြည်ပမှ ဝယ်ယူသုံးစွဲမည်ဟု ဖော်ပြထားပြီး ကုန်ကြမ်း၊ ကုန်ချောအမျိုးအစား ညီညွတ်မှု ရှိပါသည်။

(စ) ထုတ်လုပ်မည့်ပစ္စည်းများအတွက် စက်နှင့်စက်ပစ္စည်းအချိုးအစား ညီညွတ်မှု ရှိပါသည်။

(ဆ) နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အား တင်ပြချက်တွင် Exhibit -7(a)တွင် ဖော်ပြချက်ရ နှစ်စဉ်ထုတ်လုပ်မှုနှင့် လူအင်အားခန့်ထားမှု ဆီလျော်မှု ရှိပါသည်။

(ဇ) ကုမ္ပဏီမှ ထုတ်လုပ်သော ထုတ်ကုန်ပစ္စည်းများသည် ဆောက်လုပ်ရေးလုပ်ငန်းသုံးပစ္စည်းများဖြစ်ရာ အရည်အသွေးသည် အရေးကြီးသောအချက်ဖြစ်၍ အလေးထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဈ) ဤဝန်ကြီးဌာနအနေဖြင့် ကျောက်မီးသွေး၊ မြေထည်လုပ်ငန်းများနှင့် နီးနွယ်သောလုပ်ငန်းများသာ ဆောင်ရွက်နေခြင်းဖြစ်ရာ ကွန်ကရစ်ထုတ်လုပ်ခြင်းလုပ်ငန်း၊ ကွန်ကရစ်ဖျော်စပ်ရာတွင် အသုံးပြုထုတ်လုပ်မည့် ဓါတုပစ္စည်းများ ထုတ်လုပ်ခြင်းအတွက် စိစစ်နိုင်ခြင်း မရှိပါ။

၃။ သို့ပါ၍ Ezcon Co.,Ltd. မှ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့် ညီညွတ်ပါက ဤဝန်ကြီးဌာနနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
MYANMAR INDUSTRIES ASSOCIATION
NO.29, MIN YE KYAW SWAR STREET, LANMADAW TOWNSHIP, YANGON, MYANMAR
☎ : 95-1-214830~31 E.mail: industries.association.mm@gmail.com Fax: 95-1-214832

M-671
8.4.16

စာအမှတ်၊ ၀၀၁/စမ (စီမံ) ၂၀၁၆ (၁၃၂)
ရက်စွဲ ၊ ၂၀၁၆ခုနှစ် ၊ ဧပြီ လ ၇ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ ။ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း၏ သဘောထားမှတ်ချက်ပေးပို့ခြင်း။
ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး၏ ၁၇-၃-၂၀၁၆ ရက်စွဲပါ စာအမှတ် ရက-၃ /န-၁၃၁၆ /၂၀၁၆ (၄၃၃-ခ)

အထက်ပါကိစ္စနှင့် ပတ်သက်၍ EZCON Company Limited ၏ မြေကွက်အမှတ်- ၄၃၅ မြေတိုင်းရပ်ကွက် အမှတ် (၂၃)၊ တောင်ဒဂုံစက်မှုဇုန်၊ ဒဂုံမြို့သစ်တောင်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး မြေဧရိယာ ၀.၁၆၅ (၆၆၇.၇၃ စတုရန်း မီတာ)ရှိမြေအား ငှားရမ်း၍ Concrete Admixture များ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း Chemical Industry Group ၏ သဘောထားမှတ်ချက်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

၁။ ဓါတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့်

(က) ပတ်ဝန်းကျင်ထိန်းသိမ်းရေး အစီအမံများ

(ခ) လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ

(ဂ) စွန့်ပစ်ပစ္စည်း၊ စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ

(ဃ) ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်တပ်ဆင်မှု အစီအမံများ

(င) အရေးပေါ်အခြေအနေနှင့် ကြုံတွေ့ပါက တုံ့ပြန်ဖြေရှင်းနိုင်မည့် အစီအမံများ တင်ပြမှသာလျှင် ကော်မရှင်မှ ခွင့်ပြုသင့်ပါသည်။

၂။ ဓါတုပစ္စည်းအသုံးပြု၍ ထုတ်လုပ်သော စက်ရုံဖြစ်သောကြောင့် ကုန်ကြမ်းသယ်ယူခြင်းမှ ကုန်ချောထုတ်လုပ်မှုဖြစ်စဉ် တစ်လျှောက်လုံးတွင် မြန်မာနိုင်ငံဓါတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ ကာကွယ်ရေး ဥပဒေ ( Prevention of Hazard From Chemical and Related Substances Law) အတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ ထုတ်လုပ်မှုဖြစ်စဉ်တစ်လျှောက်လုံးအား ထုတ်လုပ်သူမှ တာဝန်ယူဆောင်ရွက်ပေးရန် ဖြစ်ပါသည်။ မြန်မာနိုင်ငံတာဝန်သိ စောင့်ရှောက်မှုကောင်စီ (Myanmar Responsible Care Council) နှင့် ပူးပေါင်း၍ Responsible Care Activities များ ဆောင်ရွက်ရန် လိုအပ်ပါသည်။

၄။ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မှုအတွက် Environmental Impact Assessment (EIA) ကို စဉ်ဆက်မပြတ် အကောင်အထည်ဖော် ဆောင်ရွက်ရန် လိုအပ်ပါသည်။

MYANMAR INDUSTRIES ASSOCIATION

အထွေထွေအတွင်းရေးမှူး (ကစ)
ဒေါ်ရီရီမြင့် (CIG ဗဟိုကော်မတီဝင်)

မိတ္တူကို
- ရုံးလက်ခံ

**To**
**Chairman**
**Myanmar Investment Commission**
**Building (32), Nay Pyi Taw,**
**The Republic of the Union of Myanmar.**

**Subject:** Application for Investment Permit for establishment of foreign company for carrying out manufacturing and selling of concrete admixture in the Republic of the Union of Myanmar.

Yours Excellency,

1 We, respectfully requests Myanmar investment Commission to approve our investment proposal and to issue investment permit for Manufactruing and selling of concrete admixture under the name of Ezcon Co.,Ltd as a 100% Foreign Investment Company in the Republic of the Union of Myanmar according to the Foreign Investment Law of the Republic of the Union of Myanmar.

2 We, Ezcon Co.,Ltd's objective is production sales of concrete admixture that has been produced with advanced techniques. By using our concrete admixture when producing concrete instead of water, you can get ,

(a) Protect the water proofing
(b) More bear the nature disaster
( c ) More strong the building

Due to above advantages, we would like to request to allow for MIC permit.

3 We, respectfully submit the following documents for your kind consideration and approval.

| | |
|---|---|
| (1) Proposal of the promoter to make Foreign Investment in the Republic of the Union of Myanmar. | Attachment - A |
| (2) Director List | Attachment - B |
| (3) Investment Schedule | Attachment - C |
| (4) Economic Benefit Schedule / The Statement of Economic Justification | Attachment - D |
| (5) Land & Building Lease Agreement ( Draft ) | Attachment - E |
| (6) Original Bank Statement of Foreign side . | Attachment - F |
| (7) Environment control plan | Attachment - G |
| (8) Factory Social and Welfare Plan | Attachment - H |
| (9) Coporate Social Responsibilities | Attachment - I |
| (10) Fire Protection plan | Attachment - J |
| (11) Photo of Finished goods | Attachment - K |
| (12) Factory Photo | Attachment - L |
| (13) Production procedure of products and packing system | Attachment - M |
| (14) Photo of machinery and equipment to be imported | Attachment - N |
| (15) Document of submitting for company registration | Attachment - O |
| (16) Drafts of Memorandum of Association and Articles of Association | Attachment - P |
| (17) Techniques of Concrete Admixture | Attachment - Q |

4 We also respectfully request MIC to grant the following tax exemptions and reliefs on our investment project in accordance with section 27 of the foreign investment law.

a. exemption from income-tax for a period extending to (5) consecutive years, inclusive of the year of commencement of production of our goods and exemption or relief from income-tax for a further reasonable period, depending upon the success of our enterprise in which investment is made;

b. exemptions or reliefs from income tax on profits of the business if they are maintained for re-investment in a reserve fund and re-invested there in within 1 year after the reserve is made;

c. right to deduct depreciation from the profit, after comupting as the rate of deducting depreciation stipulated by the Union, in respect of machinery, equipment, building or other capital assets used in the business for the purpose of income tax assessment;

d. if the goods produced by any manufactruing business are exported, relief from income tax up to 50 percent on the profits accrued from the said export;

e. right to pay income tax on the income of investors at the rates applicable to the citizens residing within the Union;

f. right to deduct expenses from the assessable income, such expenses incurred in respect of research and development relating to the business which are actually required and are carried out within the Union;

g. right to carry forward and set-off the loss up to 3 consecutive years from the year the loss is actually sustained within 2 years following the enjoyment of exemption or relief from income tax as contained in sub-section (a), for each business;

h. exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business, which are imported as they are actually required for use during the period of construction of business;

i. exemption or relief from customs duty or other internal taxes or both on raw materials imported for production for the first three years after the completion of construction of business;

j. if the volume of investment is increased with the approval of the Commission and the original investment business is expanded during the permitted period, exemption or relief from custom duty or other internal taxes or both on machinery, equipment, instruments, machinery components, spare parts and materials used in the business which are imported as they are actually required for use in the business expanded as such;

k. exemption or relief from commercial tax on the goods produced for export.

